ဟာဇရသ် မော်လာနာ စိုယစ်ဒ် ဘောလာလ် အစ်ဒွလ်ဟိုင်ယ်
(ဟာစနီ၊ နဒ်ဝီ) ရေးသားပြုစုသော



# ပြုန့်ပွားစေမည့် ဟာဒီးဆ်ရောင်ခြည်

ဘာသာပြန်ဆိုသူ

မွတ်ဖ်သီ မိုဟာမ္မဒ် အာစွင်းမ်

နဒ်ဝီ၊ မဇ္ဇာဟောရီ၊ အဗွလ်ဟာစနီ

ဟဇရသ် မောင်လာနာ မိုဟမ္မဒ် စိုင်ယက်ဒ် ဘေလာလ် အဗ်ဒွလ်ဟိုင်ယ်

(ဟာစနီ၊ နဒ်ဝီ) ရေးသားပြုစုသော

# ပြန့်ပွားစေမည်

# ဟဒီးဆ်ရောင်ခြည်

**ဘာသာပြန်ဆိုသူ**

မွတ်ဖ်သီ မိုဟမ္မဒ် အာစွင်းမ်

(နဒ်ဝီ၊ မဇွာဟေရီ၊ အဗွလ်ဟာစနီ)

بسم الله الرحمن الرحيم

မာတိကာ

بسم الله الرحمن الرحيم

## ဘာသာပြန်ဆိုသူ၏ အမှာစာ

လေးစားအပ်သော စာရှုသူသို့ ....

စာရှုသူလက်ဝယ်ရှိ ဤကျမ်းငယ်သည် ကျွန်ုပ်၏ကျေးဇူးရှင် ဆရာသခင် ဟာဇရသ် မော်လာနာ စိုင်ယစ်ဒ် ဘေလားလ်အဗ်ဒွလ်ဟိုင်ယ် (ဟစနီ၊ နဒ်ဝီ)ရေးသားပြုစုခဲ့သည့် *حدیث کی روشنی* အမည်ရှိ မင်္ဂလာရှိလှသောကျမ်းဖြစ်သည်။ ထိုကျမ်းကို အကြောင်းခံပြီး အစ္စလာမ့်ရင်သွေးငယ်ပေါင်းများစွာ ဟဒီးဆ်တော်လေးဆယ်ကို နှုတ်တိုက်ကျက်မှတ်ခွင့်ရရှိနေဆဲ၊ ရနေမြဲဖြစ်သည်။

ရှင်းလင်းချက်များ၊ အကျိုးကျေးဇူး ထုတ်နှုတ်မှုများသည်လည်း အလွန်ပင်ထိရောက်လှသဖြင့် လူကြီး၊ လူလတ်အားလုံးအတွက်ပါ အကျိုးဖြစ်ထွန်းစေပါသည်။

ဟဒီးဆ်တော်လေးဆယ်ကျက်မှတ်ခြင်းဖြင့် ကိုယ်တော့်အတွက် အချစ်သက်သေထူလိုသူများအတွက် အကောင်းဆုံးကျမ်းငယ်တစ်စောင်ဖြစ်ကြောင်း သတင်းကောင်းပါးအပ်ပါသည်။

မူရင်းကျမ်းရှင်ဆရာသခင်ကြီး၏ ရေးသားချက်များတွင် စာအုပ်အကြောင်း အသေးစိတ်ဖော်ပြထားသောကြောင့် ဤနေရာတွင် စာအုပ်နှင့်စပ်လျဉ်းပြီး တစ်စုံတရာမဖော်ပြတော့ပါ။

ကျွန်ုပ်သည် ဤကျမ်းငယ်ကို လွန်ခဲ့သည့်(၁၀)နှစ်ခန့်က ဘာသာပြန်ဆိုဖြစ်ခဲ့ပါသည်။ အကြောင်းအမျိုးမျိုးကြောင့် ထုတ်ဝေခွင့်မရရှိခဲ့

ပါ။ ယခုအရှင်မြတ်၏ကျေးဇူးတော်၊ အချို့သောမိတ်ဆွေများ၏ အားပေးမှုတို့ကြောင့် ထုတ်ဝေနိုင်ခဲ့ပါပြီ။

ဟဒီးဆ်တော်များအား နှုတ်တိုက်ကျက်မှတ်လိုသူများသည် ဤကျမ်းကို လေ့လာကျက်မှတ်သင့်ပါသည်။ ထိုနည်းတူ အစ္စလာမ့်မက္ကသဗ်(အခြေခံကျောင်း)တာဝန်ခံများသည်လည်း မိမိတို့၏သင်ရိုးတွင် ဤကျမ်းကို ထည့်သွင်းရန်အကြံပြုလိုပါသည်။

ဤကျမ်းမြောက်စေရန် အကျိုးအကြောင်းညီညွတ်စေတော်မူသောအရှင်မြတ်ကို ဦးစွာကျေးဇူးတင်အပ်ပါသည်။ တဖန်ဤကျမ်းပြုစုခဲ့သော ဆရာသခင် ဟဇရသ်မော်လာနာ စိုင်ယစ်ဒ် ဘေလားလ် (ဟာစနီ)၊ ဤဘာသာပြန်ကျမ်းအစပိုင်းမှ ဟဒီးဆ်တော်အချို့ကို စိစစ်ပြီးအကောင်းဆုံးအကြံပြုချက်များချီးမြှင့်ပေးခဲ့သည့် ကွယ်လွန်သူ မိခင်မွန်(ချမ်းမြေ့ကြည်သာ-သာစည်)၊ အမှာစာချီးမြှင့်ပေးသော ကျေးဇူးရှင်ဆရာသခင် ဟဇရသ်မော်လာနာ ဟော့ရှားမ်နဒ်ဝီ၊ သတ်ပုံသတ်ညွှန်းများနှင့်လိုအပ်သည်များကို ထပ်မံစိစစ်ပေးခဲ့သော ဆရာဇကရီယာ၊ စာအုပ်ကိုတင့်တင့်တယ်တယ် အလှချယ်ပေးခဲ့သော ချစ်မိတ်ဆွေမုဖ်သီ အဗ်ဒုလ်ဂနီ(နဒ်ဝီ၊ မဇ္ဇာဟော့ရီ)တို့နှင့် ဤနေရာတွင် အမည်ဖော်ပြရန်ကျန်ရှိနေသည့် ကျေးဇူးရှင်များအားလုံးကို ကျေးဇူးတင်ရှိပါကြောင်း ......။

**မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟော့ရီ)**

**ရဗီအွတ်ဆ်ဆာနီ (၁၁) ရက်၊ (၁၄၄၁) ဟစ်ဂျ်ရီ**

**ဒီဇင်ဘာ(၉) ရက်၊ (၂၀၁၉) ခု၊ တနင်္လာနေ့**

بسم الله الرحمن الرحيم

## မူရင်းကျမ်းရှင်၏အမှာစာ

الحمد لله رب العالمين، والصلاة والسلام على سيد المرسلين، سيدنا ومولانا محمد وآله وصحبه أجمعين. أما بعد.

ဤအွမ္မသ်၏ထူးခြားချက် ဤအွမ္မသ်၏ ပေါ်လွင်ထင်ရှားဆုံး ထူးခြားမှုများအနက်မှ ထူးခြားချက်တစ်ခုမှာ ကိုယ်တော်မြတ်ကြီး (ﷺ) ၏ ဘဝရှုထောင့်အဖုံဖုံအား စုံလင်စွာ အသေးစိတ်အရေးတယူ ထိန်းသိမ်းထားနိုင်ခြင်းပင်ဖြစ်သည်။ ထို့အပြင်ကိုယ်တော်မြတ်ကြီး (ﷺ) ရွှေနှုတ်တော်မှ ထွက်ပေါ်လာသည့် မိန့်မြွက်ချက်များကိုလည်း လိုတိုးပိုလျှော့မပြုဘဲ အခြားအွမ္မသ်များနှင့်မတူ တမူထူး၍ ထိန်းသိမ်းထားနိုင်ခဲ့ခြင်းပင်ဖြစ်သည်။ ဤအချက်၏နောက်ကွယ်တွင် မြင့်မြတ်တော်မူသောအရှင်မြတ်၏ တန်းခိုးတော်သည်လည်း ဖုံးကွယ်လျက်ရှိနေပေသည်။ ထိုအရှင်မြတ်က ဤသာသနာတော်အား ကေယာမသ်ကမ္ဘာပျက်မည့်နေ့တိုင် ထိန်းသိမ်းစောင့်ရှောက်သွားမည်ဟု ကတိတော်ပြုထားပေသည်။

### ဟဒီးဆ်တော်များထိန်းသိမ်းခြင်းနှင့် ဟဒီးဆ်ဆင့်ပြန်သူများ

အချုပ်ဆိုရသော် ဤအွမ္မသ်၏ဟဒီးဆ်တော်များအားထိန်းသိမ်းရေးတွင် အပတ်တကုတ်ကြိုးပမ်းမှုပုံရိပ်များမှာလည်း ဂန္ထဝင်တွင် စံတင်ထိုက်ပေသည်။ ဤကြိုးပမ်းအားထုတ်မှုမှာ ဟဒီးဆ်တော်များအား ထိန်းသိမ်းရေးတွင်သာမက ယင်းဟဒီးဆ်တော်များအား ဆင့်ပြန်ရာ

တွင် ပါဝင်လျက်ရှိသည့် သိန်းပေါင်းများစွာသော ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်များ၏ထေရုပ္ပတ္တိများအား လေ့လာရန် "فن الرجال" ဟူသည့်ဘာသာရပ်တစ်ခုအား သမိုင်းတွင်မော်ကွန်းဝင်စေခဲ့သည်။

## ဟဒီးဆ်ပညာရှင်များအတွက် အားဆေးတစ်ခွက်

အခြားတစ်ဘက်၌ ကိုယ်တော်မြတ် (ﷺ) ၏ဟဒီးဆ်တော်များဖြင့် မွေ့လျော်သူများအားချီးမြှင့်ခဲ့သောဒိုအာသည်လည်း ၎င်းတို့ဘဝတွင် ရောင်ပြန်ဟပ်လျက်ရှိနေပေသည်။ ယင်းဒိုအာမှာ ....

"نضر الله امرأ سمع مقالتي فوعاها فأداها كما سمعها"

"မြင့်မြတ်တော်မူသောအလ္လာဟ်အရှင်မြတ်သည် ငါကိုယ်တော်၏ မိန့်ခွန်းတော်များကိုကြားနာပြီး ကျက်မှတ်နားလည်ထိန်းသိမ်းကာ မိမိကြားသိထားသည့်အတိုင်း ပြန်လည်ပို့ချပေးသူတို့၏ဘဝအား စိုပြေရွှင်ပြစွာထားတော်မူပါ။ ၎င်းတို့၏(ဘဝအား) သာယာဝပြောစေပါ"။ ဟူ၍ ဖြစ်ပါသည်။

## သမိုင်းတစ်လျှောက်ထွန်းတောက်ခဲ့သည့် ဟဒီးဆ်ကျမ်းဂန်များ

ပထမရာစုနှစ်မှစ၍ ယနေ့တိုင် မင်္ဂလာအပေါင်း ခညောင်းသော ဤပညာရပ်တွင် ရှုထောင့်ပေါင်းစုံတို့မှ ကြိုးပမ်းမှုများရှိနေခဲ့ပေသည်။ ယင်းကြိုးပမ်းမှုများတွင် ပါဝင်ခွင့်ရရှိသော သုခမိန်ကြီးများမှာလည်း မိမိတို့အတွက် ဂုဏ်ယူဖွယ်ရာအရည်အချင်းတရပ်အဖြစ် မှတ်ယူလေ့ရှိကြသည်။ ၎င်းတို့၏အာရုံစိုက်ကြိုးပမ်းမှုတို့ကြောင့်ပင် ဤပညာနှင့်

ပတ်သက်ဆက်နွှယ်နေသည့် အခြားသော(ဟဒီးဆ်းဋ္ဌီကာဖွင့်ပညာ၊ ဟဒီးဆ်တော်များမှထုတ်နှုတ်ထားသည့် ဥပဒေများအားလေ့လာသော ပညာ၊ ဟဒီးဆ်၏ရသအနှစ်သာရများအား ထုတ်ဖော်ပေးသောပညာ အစရှိသည့်)ပညာရပ်များပေါ်ထွန်းခဲ့လေသည်။ ယင်းတို့အား အကျယ်တဝင့်ရှင်းလင်းရန် ဤနေရာတွင် အခွင့်အခါမသာချေ။

ဟဒီးဆ်တော်များ၏ မူရင်းစာသားများကို စုဆောင်းတင်ပြသည့် ကျမ်းများမှာလည်း သဏ္ဍာန်အမျိုးမျိုးဖြင့် ကျွန်ုပ်တို့ရှေ့ဝယ် ရောက်ရှိခဲ့ပေပြီ။

## ဟဒီးဆ်တော်လေးဆယ်ဆိုသည်မှာ ...

ယင်းသဏ္ဍာန်များအနက်မှ ပုံစံတစ်ခုမှာ “أربعينات” ခေါ်ဟဒီးဆ်တော် လေးဆယ်ကိုသာ ရွေးချယ်တင်ဆက်ခြင်းပင်ဖြစ်သည်။ ထိုကိစ္စရပ်နှင့်ပတ်သက်၍ ကိုယ်တော်မြတ်(ﷺ)က အောက်ပါအတိုင်း မိန့်ကြားခဲ့သည် ....

”من حفظ على أمتي أربعين حديثا في أمر دينها بعثه الله تعالى فقيها وكنت له يوم القيامة شافعا وشهيدا“.

قلت: عن أبي الدرداء قال: قال رسول الله صلى الله عليه وسلم. اهـــ [أخرجه أبو بكر الشافعي في ”الفوائد“ الشهير بالغيلانيات: ج: 1، ص: 370، رقم الحديث: 364].

"မည်သူမဆို ငါ၏အွမ္မသ်အတွက် သာသနာတော်နှင့်ပတ်သက်သည့် ဟဒီးဆ်တော်ပေါင်းလေးဆယ်အား ကျက်မှတ်ထိန်းသိမ်းပေးခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည်၎င်းသူအား သာသနာတော်တွင် ဂဃနဏ

ခရေ့စေ့တွင်းကျ နားလည်သဘောပေါက်သူအဖြစ်ရှင်ပြန်ထစေမည်။ ငါကိုယ်တော်မြတ်သည်လည်း ကေယာမသ်ကမ္ဘာ့တရားခွင်နေ့၌ ၎င်းသူအဖို့ သက်သေခံ၍ အသနားခံပေးမည့်သူအဖြစ်ရှိနေမည်။"

ဤပြညာရပ်တွင် မွေ့လျော်သူများသည် ဟဒီးဆ်တော်လေးဆယ်အားရွေးချယ်ရာတွင် အမျိုးမျိုးအဖုံဖုံသောနည်းလမ်းများကို လက်ကိုင်ထားကြသည်။ အချို့မှာ အကြောင်းအရာတစ်ခုမှ ဟဒီးဆ်တော်ပေါင်းလေးဆယ်ကို စုစည်းကြသည်။ အချို့က ဆင့်ပြန်သူတစ်ဦးတည်း၏ အကြောင်းအရာပေါင်းစုံနှင့်စပ်လျဉ်းသည့် ဟဒီးဆ်တော်လေးဆယ်ကို ရွေးချယ်ကြသည်။ ထို့အတူ ဆင့်ပြန်သူအများထံမှ အကြောင်းအရာပေါင်းစုံနှင့် စပ်လျည်းသည့်ဟဒီးဆ်တော်လေးဆယ်ကို စုစည်းထားသော ကျမ်းငယ်အသွယ်သွယ်ကိုလည်းတွေ့ရသည်။

ထိုကျမ်းငယ်များတွင် အကျော်ကြားဆုံးနှင့် အများလက်ခံသည့် ကျမ်းငယ်မှာကား (မွတ်စ်လင်မ်ကျမ်း၏ (ဋီကာ)အကျယ်ပြန်ဖွင့်ဆိုသူ رياض الصالحين ကျမ်းရှင်အေမာမ်နဝဝီသခင်၏ကျမ်းငယ်ပင်ဖြစ်ပေသည်။

အိန္ဒိယနိုင်ငံ၏ ဂုဏ်ထူးဆောင်သုခမိန်ကြီး ဟဇရသ်ရှားဟ် ဝလီယွလ္လာဟ်ဒေဟ့်လဝီသည်လည်း ဟဇရသ်အလီ (ﷺ) သခင်တစ်ပါးတည်း၏ ဟဒီးဆ်တော်ပေါင်းလေးဆယ်ကို စုစည်းခဲ့သည်။

## ဤ "ဟဒီးဆ်ရောင်ခြည်" ကျမ်းငယ် ဖြစ်ပေါ်လာပုံ

ကျွန်ုပ်ကဲ့သို့အညတရအတွက် ဤမျှမင်္ဂလာရှိသော အစီအစဉ်တွင် ပါဝင်ရန်ကြိုးစားဖို့သတ္တိ အဘယ်တွင်ရှိအံ့နည်း။ သို့သော်(အိန္ဒိယနိုင်ငံ၊

ယူပီပြည်နယ်၊ ရိုင်ဗရေ့လီမြို့၊ မိုင်ဒါန်ပူးရ်အရပ်တွင်တည်ရှိသော) အိသွေ့ယာအုလ်အုလူးမ်ကျောင်းတော်တွင် အဆွရ်ရ်နမားဇ်အပြီး ကျောင်းသားများအား ဟဒီးဆ်တော်လေးဆယ် ကျက်မှတ်အာဂုံဆောင်ပေးသည့် အစဉ်အလာကောင်းတစ်ခု ရှိနေခဲ့သည်။ ယင်းအစီအစဉ်အတွက် ဦးစွာပထမ ဟဇရသ်ရှားဟ် ဝလီယွလ္လာဟ်သခင်ကြီးစုဆောင်းတင်ပြသည့် ဟဒီးဆ်တော်လေးဆယ်အား တိုတောင်းသည့်အတွက် ရွေးချယ်ခဲ့သည်။ ထိုအတိုင်းတစ်နှစ်ကုန်ဆုံးသွားခဲ့သည်။ သို့သော်ဒုက္ခတစ်ခုမှာ ယင်းကျမ်းငယ်တွင်ပါဝင်သည့် ဟဒီးဆ်တော်အများစုမှာ ضعف (ခေါ်) စံချိန်လျော့နည်းနေသည့် ဟဒီးဆ်တော်များဖြစ်နေပေသည်။

ဤမတတ်စွမ်းနိုင်သူ၏အရှုတွင်လည်း ဆွဟာဗီတစ်ပါးတည်း၏ صحاح ခေါ်စံချိန်ပြည့်ပြီး တိုတောင်းသည့်ဟဒီးဆ်တော်လေးဆယ်အား စုဆောင်းတင်ပြထားသည့်ကျမ်း၊ အကြောင်းအရာပေါင်းစုံပါဝင်ပြီး ကျောင်းသားများအတွက် ပိုမိုအကျိုးဖြစ်ထွန်းစေမည့် ကျမ်းဟူ၍မရှိခဲ့ပေ။ ထို့ကြောင့် ဤမထိုက်တန်သူသည် ဟဇရသ်အဗူဟိုရိုင်ရဟ် (ﷺ) တစ်ပါးတည်းထံမှ ဆင့်ပြန်ချက်လာရှိသည့် ဟဒီးဆ်တော်လေးဆယ်အား အထက်ပါလျော့နည်းနေသည့် ကွက်လပ်များကိုဖြည့်စွက်ကာ ကျောင်းသားများနှင့် အခြားသူများပါ အကျိုးရှိစေရန်ရည်သန်လျက် အဓိပ္ပါယ်နှင့်အတူ ဟဒီးဆ်၏အချို့သောအကျိုးတရားများကိုပါဖော်ပြလိုက်ရပါသည်။

## မှီငြမ်းကျမ်းများ

ထိုသို့တင်ပြရာတွင် ဟဇရသ်မော်လာနာမန်ဇူးရ်နုအ်မာနီ (رحمه الله) သခင်၏ معارف الحديث ကျမ်း၊ ကျွန်ုပ်ဘဝ၏ လမ်းပြကြယ်တစ်ပွင့်ဖြစ်သော ကျေးဇူးရှင်ဆရာသခင်ကြီး ဟဇရသ်မော်လာနာ အဗွလ်ဟာစ်အလီ(နဒ်ဝီ) ၏ الأركان الأربعة နှင့် دستور حيات ကျမ်း၊ ရှိုင်ခွလ်ဟဒီးဆ်မော်လာနာဇကရီယာဆပ်၏ فضائل اعمال ကျမ်းတို့ကို မှီငြမ်း၍ ဟဒီးဆ်ပါအကျိုးကျေးဇူးများကို ဖော်ထုတ်ခဲ့ပါသည်။ ဤအတိုင်းအလ္လာဟ်အရှင်မြတ်၏ စွမ်းအားပေးမှုသက်သက်ဖြင့် ဤကျမ်းငယ်သည် စာရှုသူများရှေ့မောက်သို့ရောက်ရှိခဲ့ပေသည်။ ထို့နည်းတူစွာဤကျမ်းငယ်မှာလည်း စုစည်းသူအတွက် ဂုဏ်ယူဖွယ်ရာ ကံကောင်းခြင်းတစ်ခုဖြစ်နေခဲ့သော်လည်း အရဗီဆိုရိုးစကားတစ်ခုမှာ စာရေးသူ၏အခြေအနေအတွက် အကောင်းဆုံးပြယုဂ်တစ်ခုဖြစ်နေသည်။ أنى يدرك الضالع شأو الضليع (သမ္မါ၊ ဝါနည်းသူမှာ သမ္မါရှိသူ၊ ဝါကြီးသူတို့၏အဆင့်ကို အဘယ်တွင်မှီနိုင်အံ့နည်း။)

နိဂုံးအချုပ်အနေနှင့် ၊ကျမ်းငယ်ဖြစ်မြောက်ရေးတွင် ကဏ္ဍအစုံမှ ပါဝင်ကူညီခဲ့ကြသူတိုင်းအား ကျေးဇူးဥပကာယတင်ရှိပါသည်။ ကျွန်ုပ်အားထိန်းကျောင်းပဲ့ပြင်ပေးသည့် နောင်တော် စိုင်ယစ်ဒ် အဗ်ဒွလ္လာဟ်ဟာစနီသည် စိစစ်ပေးပြီး တန်ဖိုးမဖြတ်နိုင်သည့်အမှာစာတစ်ခု ရေးသားကာဂုဏ်ပြုခဲ့သည်။ ချစ်မိတ်ဆွေ မော်လာနာမုဟမ္မဒ်ဟာစ် နဒ်ဝီ၊ ချစ်တပည့် မိုဟမ္မဒ်နဖီးစ်ခါးန်၊ ဒွေလ်ရှားဒ်အဟ်မဒ် တို့မှာလည်း စာအုပ်ကို အချောရေးသားပေးခဲ့ကြသည်။ အလ္လာဟ်အရှင်အားလုံးကို အကောင်း

ဆုံးသော အစားချီးမြှင့်ပေးသနားတော်မူပါစေ။ ထို့နောက် ဤကြိုးပမ်းမှုအား ကျွန်ုပ်မတတ်စွမ်းနိုင်သူအဖို့ လွတ်ငြိမ်းချမ်းသာခွင့်ရရန် အကြောင်းခံအဖြစ် ပြုပေးသနားတော်မူပါ။ အာမီးန်ဆွမ္မအာမီးန်

**စိုင်ယစ်ဒ် ဘေလားလ် အဗ်ဒွလ်ဟိုင်ယ်**

**ဟာစနီ၊ နဒ်ဝီ**

ကျမ်းပြုစုသည့် ဆရာကြီးသည် ဤကျမ်းတွင် အဗူဟိုရိုင်ရဟ် ﵁၊ထံမှဆင့်ပြန်ချက်လာရှိသော ဟဒီးဆ်တော်များကိုသာ ဖော်ပြထားသည်ဖြစ်ရာ သခင်ကြီး၏အကြောင်းကို ဦးစွာလေ့လာကြည့်ကြပါစို့။

## အဗူဟိုရိုင်ရဟ် (﵁) သခင်အကြောင်း

أبو هريرة သခင်၏ အမည်မှာ عبد الرحمن ဖြစ်သည်။ သခင်သည် ယီမင်နိုင်ငံ ဒေါ်င်းစ်မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ ဟစ်ဂျ်ရီ (၇) ခုနှစ်၊ မုဟာရ်ရမ်လမြတ်တွင်အစ္စလာမ်လက်ခံခဲ့သည်။ ကြောင်မလေးကို အလွန်ချစ်တတ်သောကြောင့် ကိုယ်တော်မြတ် (ﷺ) က သခင့်အား "ကြောင်မလေး၏ဖခင်"ဟု တင်စားခေါ်ဝေါ်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) ၏အပါးတော်ရှိ ဆွဖ်ဖာကျောင်းတွင် အမြဲတစေနေထိုင်ပြီး ဟဒီးဆ်တော်များကိုကြားနာခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) သည်သခင့်အတွက် ဟဒီးဆ်တော်များ ကျက်မှတ်နိုင်ပြီး မေ့မသွားစေရန် အထူးဒိုအာပြုပေးခဲ့သည်။ ဆွဟာဗာတို့အနက် ဟဒီးဆ်အများဆုံး ဆင့်ပြန်ခဲ့သူဖြစ်သည်။ ကိုယ်တော်မြတ် (ﷺ) ထံမှ ဟဒီးဆ်တော်ပေါင်း (၅၃၇၄) ပုဒ်ဆင့်ပြန်ခဲ့သည်။

သခင်သည် အလွန်ဉာဏ်ရည်ထက်မြက်သူဖြစ်သည်။ မွတ်ဖ်သီတစ်ပါးလည်းဖြစ်ခဲ့သည်။ ထို့အတူ နေ့တွင်ရိုဇာထားလေ့ရှိပြီး ညကိုအရှင်မြတ်၏ အေဗာဒသ်တွင် ကုန်ဆုံးစေသည်။ ဟစ်ဂျ်ရီ (၅၇) ခုနှစ်တွင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။

بسم الله الرحمن الرحيم

الحمد لله رب العالمين، والصلاة والسلام الأتمان الأكملان على سيدنا وحبيبنا وشفيعنا ومولانا محمد وآله وصحبه أجمعين.

## (၁) တစ်ပါးတည်းသောအရှင်ကိုသာ ယုံကြည်ခြင်း

عَنْ أَبِي هُرَيْرَةَ، قَالَ: قَالَ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ:

«اَلْإِيْمَانُ بِضْعٌ وَسَبْعُوْنَ شُعْبَةً، فَأَفْضَلُهَا قَوْلُ لَا إِلَهَ إِلَّا اللهُ».

(رواه مسلم في كتاب الإيمان، باب بيان عدد شعب الإيمان).

"အီမာန်၏အကိုင်းအလက်များမှာ (၇၀) ကျော်ရှိသည်။ ယင်းတို့အနက် အမြင့်မြတ်ဆုံးမှာ لَا إِلَهَ إِلَّا اللهُ အားရွတ်ဆိုခြင်းဖြစ်သည်။"

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်တွင် ရှင်းလင်းစွာဖော်ပြထားသည့် အချက်မှာ အကီဒဟ်(ယုံကြည်ချက်ပိုင်းဆိုင်ရာ)ကဏ္ဍတွင်အရေးကြီးဆုံးသည် لَا إِلَهَ إِلَّا اللهُ ကိုရွတ်ဆိုခြင်းနှင့် နှလုံးသား၏ယုံကြည်ချက်အား ပြုပြင်ခြင်းဖြစ်သည်။ သို့သာမက လုပ်ရပ်အလုံးစုံတို့၏ အုတ်မြစ်မှာ ခိုင်မာသော အီမာန်နှင့် မှန်ကန်သောယုံကြည်ချက်တို့ဖြစ်သည်။ ထို့နောက် သာသနာတော်၏ ပထမဆုံးထူးခြားချက်၊ ထင်ရှားသောအမှတ်အသားသည် အတွင်းပိုင်းယုံကြည်ချက်အား အလေးပေးပြီး ၎င်းနှင့်ပတ်သက်၍တိုက်တွန်းနှိုးဆော်ခြင်းဖြစ်သည်။ ဟဇရသ်အာဒမ် (عليه السلام) သခင်လက်ထက်မှစ၍ နဗီချုပ်ကြီး ကိုယ်တော်မြတ် (ﷺ) လက်ထက်ထိ ပွင့်ပေါ်ခဲ့သမျှသော နဗီတမန်တော်များသည်လည်း တစ်ပါးတည်းသော

အရှင်အား ယုံကြည်ခြင်းဘက်ကိုသာ ဖိတ်ခေါ်ခဲ့ကြသည်။ အီမာန် ယုံကြည်ချက်မရှိသမျှကာလပတ်လုံး ဘဝ၏အကောင်းဆုံးသော စာရိတ္တများ၊ မြင့်မြတ်ဆုံးသော စွမ်းဆောင်ချက်များမှာ အချီးအနှီးပင် ဖြစ်သည်ဟု နဗီတမန်တော်အပေါင်းက လက်ခံထားကြပြီး ထိုယုံကြည်ချက်ဘက်သို့ ဖိတ်ခေါ်ခြင်းမှာ မိမိတို့ဘဝပန်းတိုင်ဖြစ်သည်ဟု သတ်မှတ်ထားကြသည်။

(အစ္စလာမ်သာသနာတော်တွင် မှန်ကန်သော) ယုံကြည်ချက်၏ အရေးကြီးပုံနှင့်ပတ်သက်၍ အကောင်းဆုံးဥပမာပြရလျှင် မက္ကာမြို့တော်တွင် စူရဟ်ကာဖွေ့ရှုးန် ကျရောက်ချိန်သည် မွတ်စ်လင်မ်အင်အားနည်းပါးနေချိန်ဖြစ်ပြီး နှုးညှံ့သိမ်မွေ့စွာဖြင့်ကာဖိရ်များနှင့် မိတ်ဖက်မပျက်ပေါင်းဖက်ဆောင်ရွက်ရမည့် အချိန်ဖြစ်ခဲ့သည်။ သောင်ဝ်ဟီးဒ်တရားဟောကြားခြင်းကို အင်အားတောင့်တင်းလာချိန်ထိ နောက်ဆိုင်းထားသင့်သည်ဟု အခြေအနေကတောင်းဆိုနေခဲ့သည်။

ဤအခြေအနေမျိုးတွင်ပင် ကာဖစ်ရ်၊ မွရှိရစ်ကီများနှင့် မွတ်စ်လင်မ်တို့မှာ(ယုံကြည်ချက်ဆိုင်ရာကဏ္ဍတွင်) လုံးဝမတူညီနိုင်၊ ပေါင်းဖက်မရနိုင်ဟူသော ကြေငြာချက်ထွက်ရှိခဲ့ပေသည်။ ဤအချက်အား (လေ့လာသုံးသပ်ကြည့်သော်) လူတို့ပြုကျင့်သမျှကောင်းမှုအဝဝသည် မှန်ကန်တိကျသော ယုံကြည်ချက်ဖြင့်သာ အရှင့်ထံတွင်လက်ခံခြင်းခံရမည်။ အီမာန်နှင့်အကီဒါ တည်တံ့ခိုင်မြဲသွားသူသည် အရှင်မြတ်တစ်ပါးတည်းသည်သာ ကိုးကွယ်ခြင်းခံထိုက်သောအရှင်၊ လိုအပ်ချက်အလုံးစုံတို့ကို

ဖြည့်ဆည်းပေးသူဟူ၍ နားလည်သွားမည်။ ထို့အတူအရှင်မြတ်၏ အမိန့်တော်မပါဘဲ မြူမှုန့်တစ်မှုံသည် မိမိနေရာမှမရွေ့လျားနိုင်သကဲ့သို့၊ သစ်ရွက်တစ်ရွက်သည်လည်းမလှုပ်နိုင်။ စကြ်ဝဠာတစ်ခုလုံးကို ထိုအရှင်မြတ်တစ်ပါးတည်းကသာ ဖန်ဆင်းထားပြီး ထိုအရှင်မြတ်ကသာ စကြာဝဠာကြီးအား ဟန်ချက်ညီစွာ လည်ပတ်စေတော်မူသော အရှင်ဖြစ်ကြောင်းယုံကြည်သွားမည်။

ကျမ်းတော်မြတ်ကုရ်အာန်တွင်လည်း"ထိုအရှင်မြတ်၏အလုပ်သည် ဖန်ဆင်းခြင်းနှင့်ယင်းဖန်ဆင်းခံများအား စနစ်တကျလည်ပတ်စေခြင်း ဖြစ်သည်" ဟုအမိန့်တော်ရှိထားသည်။

အကွယ်တွင်ရှိသော ဘဏ္ဍာတိုက်များ၏ သော့ချက်တို့သည် ထိုအရှင်မြတ်ထံပါးဝယ်ရှိတော်မူပြီး ထိုအရှင်မြတ်အလိုတူတော်မူသည့်အတိုင်းစီမံနေကြောင်း လက်ခံသွားမည်။

ကိုယ်တော်မြတ်ကြီး (ﷺ) သည် ထိုအရှင်မြတ်၏ ကျေးကျွန်၊ စေတမန်၊ အချစ်ဆုံး၊ နောက်ဆုံးနဗီ၊ တမန်တော်ချုပ်ဖြစ်တော်မူပြီး၊ ထိုကိုယ်တော်မြတ်၏ သာသနာသည် နောက်ဆုံးသာသနာဖြစ်တော်မူကြောင်းကိုလည်း လက်ခံယုံကြည်မည်။

အကယ်၍ (ဖော်ပြပါ)ယုံကြည်ချက်သည် နှလုံးတွင်းဝယ် အမြစ်တွယ်သွားလျှင် ကောင်းသောကျင့်မူဆောင်ရွက်ချက်တို့သည်လည်း ရလဒ်ကောင်းများကို ဆောင်ကြဉ်းပေးမည်ဖြစ်သည်။

၀၀၀

## (၂) စိတ်စေတနာဖြူစင်ခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«إِنَّ اللهَ لَا يَنْظُرُ إِلَى أَجْسَادِكُمْ، وَلَا إِلَى صُوَرِكُمْ، وَلَكِنْ يَنْظُرُ إِلَى قُلُوْبِكُمْ».

(رواه مسلم في كتاب البر والصلة، باب تحريم ظلم المسلم).

"မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ခန္ဓာများနှင့် အသင်တို့၏ရုပ်ရည်များကို ကြည့်တော်မူမည်မဟုတ်ပေ။ သို့ သာမက ထိုအရှင်မြတ်သည် အသင်တို့၏နှလုံးသားများကိုသာ ကြည့်ရှုတော်မူသည်။"

**ရှင်းလင်းချက်**

(အလ္လာဟ့်ထံတော်ပါးတွင်) လူတို့၏လုပ်ရပ်များ လက်ခံမှုရရှိစေသည့် အခြေခံအုတ်မြစ်မှာ နှလုံးသား၏အခြေအနေသာဖြစ်ကြောင်း ဤဟဒီးဆ်တော်မြတ်က ရှင်းလင်းစွာမီးမောင်းထိုးပြနေသည်။

လုပ်ရပ်တိုင်းမှာ သေးသည်ဖြစ်စေ၊ ကြီးသည်ဖြစ်စေ၊ ခဝပ်မှုနှင့် သက်ဆိုင်သည်ဖြစ်စေ၊ သမရိုးကျ၊ မလုပ်မနေရကိစ္စဖြစ်စေ စိတ်စေတနာဖြူစင်စွာ၊ အလ္လာဟ်အရှင်မြတ်ကျေနပ် နှစ်သက်သွားစေလိုသည့် နီယသ်(ရည်စူးချက်)ဖြင့်ပြုလုပ်ပါက အလ္လာဟ်အရှင်မြတ်သည် ထိုလုပ်ရပ်များအား လက်ခံလိမ့်မည်။ ထိုသို့မဟုတ်ပါက လုပ်ရပ်တိုင်းမှာ အသက်ပါမည်မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်ထံတော်တွင်လည်း ထိုလုပ်ရပ်သည် စိုးစဉ်းမျှတန်ဖိုးရှိလိမ့်မည်မဟုတ်။

အရှင်မြတ်နှစ်သက်သွားစေလိုသည့်ဆန္ဒ၊ ထိုဆန္ဒအားအမြဲတစေ စိတ်ဝယ်သတိရနေခြင်းအား အိခ်လားစ်(ခ)စိတ်စေတနာဖြူစင်ခြင်းဟု ဆိုပေသည်။

အိခ်လားစ်သည် အလွန်ထက်မြက်သော ဓါးတစ်လက်ဖြစ်သည်။ ထိုဓါးသည် အရှင်သခင်ကျေနပ်နှစ်သက်သွားစေခြင်းတည်းဟူသော မြင့်မားသည့် ရည်ရွယ်ချက်အပြင် အခြားရည်ရွယ်ချက်များအား ကျူ ပင်ခုတ် ကျူငုတ်မကျန် ဖြတ်တောက်ပစ်ပေသည်။ ထို့နောက်ဒွန်နယာ ၏ စည်းစိမ်များအားရယူလိုစိတ်၊ ဤလောကီသက်တမ်း၏ သခ်ါရ ပစ္စည်းများကိုပိုင်ဆိုင်လိုသည့်ဆန္ဒ၊ အုပ်ချုပ်လိုစိတ်၊ ခေါင်းဆောင်ဖြစ် လိုစိတ်၊ အမြင့်တွင်နေထိုင်လိုစိတ်၊ ဂုဏ်သိက္ခာအားစုံမက်စိတ်၊ အောင်နိုင်လိုသည့်ရမ္မက်၊ လောကီစည်းစိတ်တွင် ရစ်မူးလိုသည့်တမ်း တခြင်း၊ ဒေါသ၊ မောဟ၊ ပြန်လည်ကလည့်စားချေလိုစိတ် စသည့် ကိလေသာစိတ်ယုတ်များ ပျက်သုဉ်းသွားပေမည်။

ထို့ကြောင့် မြင့်မြတ်တော်မူသော အရှင်မြတ်ကျေနပ်နှစ်သက် စေရန် စိတ်စေတနာဖြူစင်စွာ အမိန့်နာခံမှုကို ရှေ့ရှုပြုကျင့်သော ကောင်းမှုများသည် အရှင်မြတ်နှင့်နီးကပ်မှုရစေရန်၊ အီမာန်ယုံကြည် မှု၏ ထိပ်ခေါင်ထိရောက်ရှိစေရန် အကြောင်းခံများဖြစ်ကြသည်။

အလ္လာဟ့်လမ်းတော်၌ အသက်စွန့်လှူခြင်းဖြစ်စေ၊ သာသနာ အတွက်(ကိုယ်၊ နှုတ်၊ နှလုံးသုံးပါးလုံးရင်း၍) ကျိုးပမ်းခြင်းဖြစ်စေ၊ အုပ် ချုပ်ရေးစီမံခန့်ခွဲရေးနှင့် သက်ဆိုင်သည့် ကိစ္စဖြစ်စေ၊ လောကီစည်းစိမ်

များအားခံယူခြင်းဖြစ်စေ၊ (တရားတော်မြတ်က ခွင့်ပြုထားသော) စိတ်နှလုံးသား၏ တောင်းဆိုချက်များအား ဖြည့်ဆည်းခြင်းဖြစ်စေ၊ (လောကီ၊ လောကုတ္တရာဆိုင်ရာ) ကိစ္စအဝဝတို့သည် (အိခ်လားစ္စ်ဖြင့်ပြုကျင့်ပါက) အေဗာဒသ်စာရင်းဝင်သွားပေမည်။

အိခ်လားစ္စ်မပါဘဲပြုကျင့်သမျှသည် သာသနာ့အတွက်ပင်ဖြစ်လင့်ကစား အကျိုးလက်မဲ့ဖြစ်သွားမည်။ အိခ်လားစ္စ်မပါသည့်လုပ်ရပ်များသည် နမားဇ်ဖြစ်စေ၊ သာသနာ့အတွက် မိမိဇာတိမြေ၊ အိုးအိမ်၊ ဆွေမျိုးညာတိများအား စွန့်လွှတ်သည်ဖြစ်စေ၊ သာသနာ့အတွက် သက်စွန့်ဆံဖြားကြိုးပမ်းသည်ဖြစ်စေ၊ (ဇစ်ကရ်) ဘာဝနာစီးဖြန်းသည်ဖြစ်စေ၊ စသည့်လုပ်ရပ်ကောင်းများပင်လျှင် ခဲလေသမျှသဲရေကျ၊ သဲထဲရေသွန်ဘိအလား အချီးအနှီးဖြစ်သွားမည်။

ကိုယ်တော်မြတ်ကြီး (ﷺ) က "အရှင်မြတ်သည် အသင်တို့၏ရုပ်ဇရာများကိုကြည့်မည်မဟုတ်။ ထိုအရှင်မြတ်၏အရှုတော်သည် အသင်တို့၏ စိတ်နှလုံးသားပေါ်တွင်ရှိပေသည်။" ထိုအရှင့်ထံပါး၌လက်ခံမှုရရှိခြင်းသည် စိတ်နှလုံး၏အခြေအနေပေါ် မူတည်လျှက်ရှိကြောင်း မိန့်ဆိုထားခြင်းဖြစ်သည်။

အချုပ်ဆိုရသော် ကြီးမားသော လုပ်ရပ်များကိုပြုကျင့်ခြင်းပင်ဖြစ်လင့်ကစား အိခ်လားစ္စ်မပါခဲ့ပါက ထိုလုပ်ရပ်များမှာ အကျိုးပေးမည့်အစား အဆိုးပေးမည့်အကြောင်းကောင်းစွာမှတ်သားထားရမည်။

❍❍❍

## (၃) ချစ်နဗီ (ﷺ) ပေါ်ဒရူးဒ်မေတ္တာပို့သခြင်း၏အကျိုးကျေးဇူး

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«مَنْ صَلَّى عَلَيَّ وَاحِدَةً صَلَّى اللهُ عَلَيْهِ عَشْرًا».

(رواه مسلم في كتاب الصلاة، باب الصلاة على النبي في التشهد).

"အကြင်မည်သူမဆို ငါကိုယ်တော်မြတ်အပေါ် ကောင်းချီးမင်္ဂလာ ဒရူးဒ်မေတ္တာ တစ်ကြိမ်ပို့သခဲ့ပါမူ မြင့်မြတ်တော်မူသောအရှင်မြတ် သည်လည်း ၎င်းအား (၁၀) ကြိမ် ကျေနပ်နှစ်သက်၊ ဂရုဏာသက်တော်မူသည်။"

### ရှင်းလင်းချက်

(ချစ်နဗီ (ﷺ) အပေါ်) ကောင်းချီးမင်္ဂလာ ဒရူးဒ်မေတ္တာပို့သခြင်း သည် အရှင်မြတ်ထံတော်ပါး၌ (ကိုယ်တော့်အတွက်) အကောင်းဆုံး၊ အမွန်မြတ်ဆုံးတောင်းဆုပဏ္ဏာ တစ်ခုဖြစ်သည်။ ထိုတောင်းဆုမွန်အား ပြုရခြင်းမှာ ကိုယ်တော်မြတ်ကြီးနှင့် မိမိတို့အကြား အီမာန်ဆိုင်ရာ နှောင်ကြိုးများ ခိုင်မြဲနေမှု၊ ချစ်နဗီအပေါ်သစ္စာရှိမှုတို့အား ဖော်ကျူးရန် ဖြစ်သည်။ ထိုကိစ္စနှင့်ပတ်သက်၍ မြင့်မြတ်တော်မူသောအရှင်မြတ် ကိုယ်တော်တိုင် ကျွန်ုပ်တို့(လူသား)များအား စူးရှထိရောက်သောပုံစံ ဖြင့် အမိန့်တော်ရှိထားပေသည် ..... إِنَّ اللهَ وَمَلَائِكَتَهُ يصلون عَلَى النَّبِيِّ، يَا أَيُّهَا الَّذِيْنَ آمَنُوْا صَلُّوْا عَلَيْهِ وَسَلِّمُوْا تَسْلِيْمًا [الأحزاب: ٥٦].

(ကေန်အမှန် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ "မလာအိကဟ်" ကောင်းကင်တမန်များသည်လည်းကောင်း၊ နဗီ

တမန်တော်မြတ် (ﷺ) အပေါ်ဝယ် ကောင်းချီးမင်္ဂလာပို့သကြကုန်၏။ အို - မုအ်မင်န် သက်ဝင်ယုံကြည်သူအပေါင်းတို့ … အသင်တို့သည် လည်း ထိုနဗီတမန်တော်မြတ်အပေါ်ဝယ် ကောင်းချီးမင်္ဂလာပို့သခြင်း ကိုလည်းကောင်း၊ လွန်စွာ "စလာမ်"မေတ္တာပို့သခြင်းကိုလည်းကောင်း ပြုကြလေကုန်။)

ဖော်ပြပါအာယသ်တော်အားလေ့လာကြည့်သော် မြင့်မြတ်တော်မူ သော အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ဒရူးဒ်မေတ္တာပို့သခြင်းသည် အနှစ်သက်ဆုံး လုပ်ရပ်များတွင်ပါဝင်ပေသည်။ ဤအာယသ်တော်၏ ရှုထောင့်မှ ပညာရှိကဝိမွန်ဖေကဟ်ပါရဂူများ၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်မှာ "သက်တမ်းတွင် တမန်တော်မြတ် (ﷺ) အပေါ်တစ် ကြိမ် ဒရူးဒ်မေတ္တာပို့သခြင်းမှာ "ဖရ်ဇ်" မလုပ်မနေရတာဝန်ဖြစ်သည်။ ထို့အတူဟဒီးဆ်တော်များတွင် တမန်တော်မြတ် (ﷺ) ၏နာမတော်ကို ကြားပါလျှက် ဒရူးဒ်မေတ္တာမပို့သသောသူသည် ကံဆိုးသူ၊ စေးနဲဆုံး သောသူဟူ၍လာရှိထားပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကိုယ် တော်မြတ် (ﷺ) ၏မိန့်မြွတ်ချက်များမှာ ခံနိုင်ရည်မရှိအောင်ပင် ပြင်း ထန်လှပါသည်။ အဘယ့်ကြောင့် မပြင်းထန်ရမည်နည်း၊ ကိုယ်တော် မြတ် (ﷺ) ၏အွမ္မသ်အပေါ်ထားရှိခဲ့သည့် ဖြူစင်လှသောစေတနာ၊ ၎င်းတို့အားပြုခဲ့သည့် ကျေးဇူးတရားများမှာ ပြောမကုန်၊ ရေးမဆုံးပင်။

အထက်ဖော်ပြပါ စကားရပ်များအားထောက်ရှု၍ ကောက်ချက် တစ်ခုချမိသည်မှာ မွတ်စ်လင်မ်တစ်ဦးအဖို့ ကိုယ်တော်မြတ်(ﷺ)အပေါ်

အရှင့်ဥပဒေပြဋ္ဌာန်းချက်အား လိုက်နာအကောင်အထည်ဖော်သည့် သဘောမျိုးဖြင့် မေတ္တာပို့သလိုက်ရုံဖြင့် တာဝန်မကျေသေးပါ။ သို့သာ မက ၎င်း၏နက်ရှိုင်းလှသော နှလုံးသားထဲမှ ချစ်နဗီကိုလေးစားခြင်း၊ မေတ္တာထားခြင်း၊ ကျေးဇူးသိတတ်ခြင်းတည်းဟူသော စိတ်ဓါတ်များမှာ ၎င်း၏သွေးသားထဲသို့ မိုးရေစက်ပမာ စီးစိမ့်ဝင်ရောက်သွားရပေမည်။

ထို့ပြင်ချစ်နဗီအပေါ် ဒရူးဒ်မေတ္တာပို့သခြင်း၏ အကျိုးကျေးဇူးများ မှာ လွန်စွာများပြားလှပြီး မပို့သသူမှာ ကံကြမ္မာဆိုးသူသာဖြစ်ချေမည်။

အရှင့်ဂရုဏာထိုက်သွားခြင်း၊ ကောင်းကင်တမန်တော်များ၏ ဆု မွန်ချွေခြင်း၊ အကုသိုလ်များပလပ်ချမ်းသာခွင့်ရရှိသွားခြင်း၊ အဆင့်အ တန်း များမြှင့်မားသွားခြင်း၊ ကြားဝင်အသနားခံပေးထိုက်သူဖြစ်သွား ခြင်း၊ နှလုံးသားတွင်ငြိတွယ်နေသည့်သံချေးများ သန့်စင်သွားခြင်း၊ အလ္လာဟ်အရှင်မြတ်နှင့် နီးကပ်မှုရသွားခြင်းဟူသော အကျိုးဆက်များ မှာ ချစ်နဗီအပေါ်ဒရူးဒ်မေတ္တာပို့သခြင်းပေါ် မူတည်နေသည်ဟု မြောက် မြားစွာသော ဟဒီးဆ်တော်များတွင် အတိအလင်းလာရှိထားပေသည်။

يارب صل وسلم دائما أبدا        على حبيبك خير الخلق كلهم

အို-ကျွန်တော်မျိုးအား မွေးမြူဖန်ဆင်းတော်မူသောအရှင် .... အ ဖန်ဆင်းခံဝေနေယျအပေါင်းတွင် အကောင်းဆုံးဖြစ်တော်မူသည့် အရှင့် ချစ်နဗီပေါ်အမြဲတစေ ကောင်းချီးမင်္ဂလာ စလာမ်မေတ္တာပို့သတော်မူပါ။

ooo

## (၄) သာသနာ့ပညာ၏ အရေးကြီး မြင့်မြတ်မှု

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«مَنْ سَلَكَ طَرِيْقًا يَلْتَمِسُ فِيْهِ عِلْمًا، سَهَّلَ اللهُ لَهُ بِهِ طَرِيْقًا إِلَى الْجَنَّةِ».

(رواه مسلم في كتاب الذكر والدعاء، باب فضل الاجتماع على تلاوة القرآن).

"အကြင်မည်သူမဆို သာသနာ့ပညာရှာဖွေဆည်းပူးရန် မည်သည့် လမ်းပေါ်မဆိုလျှောက်လမ်းခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည် ထိုသို့အဖို့ ဂျန္နသ်သွားရာလမ်းအား လွယ်ကူစေတော်မူမည်။"

### ရှင်းလင်းချက်

ဤဟာဒီးဆ်တော်မြတ်မှ သာသနာ့ပညာရှာဖွေရာတွင် မွေ့လျော် လုံးပမ်းနေသောသူများအဖို့ ကြီးကြယ်သော သတင်းကောင်းများရှိ ကြောင်းသိရသည်။ မည်သည့်ပုံစံဖြင့်မဆို သာသနာ့ပညာရှာဖွေသူများ သည် ဤဟာဒီးဆ်တော်မြတ်တွင်အကျုံးဝင်ပေသည်။ သို့သော်ဂရုပြု ထိုက်သည့်အချက်တစ်ခုမှာ သာသနာတော်မြတ်၏ ဝေါဟာရတွင် အိလ်မ်(သာသနာ့ပညာ)ဆိုသည်မှာ အရှင်မြတ်အား သိရှိစေသည့် အကြောင်းခံပါသောပညာကိုသာခေါ်ဆိုပေသည်။ အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်မှာ إِنَّمَا يَخْشَى اللهَ مِنْ عِبَادِهِ الْعُلَمَاءُ [فاطر: ٢٨]. "အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်၏ကျွန်တို့အနက် "အာလင်မ်" ပညာရှင်များသာလျှင် ကြောက်ရွံ့ကြကုန်၏။" ဆိုလိုသည်မှာ အရှင့်အ သိအား ရင်ဝယ်ပိုက်ထားသူများဖြစ်ကြသည်။ ထိုအချက်ကို စူရဟ် အလတ်က်တွင် ဤသို့မိန့်မြွတ်ထားပေသည်။ اِقْرَأْ بِاسْمِ رَبِّكَ [العلق:١]

(အိုနဗီတမန်တော် - အသင်သည် မိမိအရှင်မြတ်၏ နာမတော်ဖြင့်(အစပြု၍) ဖတ်ပါလေ။

ဤအာယသ်တော်မြတ်မှ ထင်ရှားစွာသိရသည့်အချက်မှာ အိလ်မ်ပညာသည်အမြဲတစေ အရှင်မြတ်၏နာမတော်ဖြင့်ပူးတွဲနေရမည်။ ထိုပညာသည် အရှင့်အားသိရှိခြင်းဆိုင်ရာ ဗိမ္မာန်အတွက် လှေခါးသဖွယ်ဖြစ်နေရမည်။ အရှင့်နာမတော်နှင့် ကင်းဝေးနေသော အသိပညာအားသာသနာ့ပညာဟူ၍မခေါ်ထိုက်ပါ။ သို့သာမက ထိုအသိသည် ထောင်ပေါင်းများစွာသော လမ်းမှားမှုများ၊ အသိဉာဏ်မဲ့မှုများအတွက် အကြောင်းခံဖြစ်စေနိုင်သည်။

အရှင်မြတ်ကို သိရှိစေရန်အကြောင်းခံဖြစ်သော အသိပညာအားရှာဖွေခြင်းသည် အမွန်မြတ်ဆုံးဖြစ်သည်မှာ မြေကြီးလက်ခပ်မလွဲပါ။ မြောက်မြားစွာသော ဟာဒီးဆ်တော်များတွင် ၎င်းတို့နှင့်ပတ်သက်၍ ကောင်းချီးသတင်းများ လာရှိထားပေသည်။ သို့သာမကသာသနာ့ပညတ်တော်များနှင့်ပတ်သက်သည့်ပညာ (ထိုပညာရပ်ထဲတွင်ယုံကြည်ချက်များ၊ ခဝပ်မှုဆိုင်ရာကဏ္ဍများ၊ ကျင့်ဆောင်ဖွယ်လုပ်ရပ်များ၊ အစ္စလာမ့်လူနေမှုစနစ်အား ပြသသည့်လမ်းစဉ်များပါဝင်ပေသည်။) အားသင်ယူရန်မှာ မွတ်စ်လင်မ်တိုင်းအပေါ် မသင်မနေရ တာဝန်ဖြစ်သည်။ ထိုပညာရပ်များအားရှာဖွေရန် မိမိတို့အချိန်များအားသစ္စာနံထားကြသည့်ကျောင်းသားများသည် အမြဲတစေ မိမိတို့ရည်စူးချက်

သတိရ လေ့လာသုံးသပ်နေပါမူ ကြီးမားသောသတင်းကောင်းများနှင့် ထိုက်သက်သူဖြစ်သွားပေမည်။

ၚင်းအတွက် ကောင်းကင်တမန်များသည် မိမိတို့အတောင်များကို ခင်းကျင်းပေးခြင်း၊ အရှင့်ထံမှ စိတ်နှလုံးချမ်းမြေ့ကြည်သာဖွယ်ရာများ နှလုံးသားတွင်းကျရောက်ခြင်း၊ အရှင့်ကရုဏာတော်များ လွှမ်းခြုံသွားခြင်း စသည့်ကတိတော်များမှာလည်း ဟဒီးဆ်တော်များတွင် များစွာလာရှိထားပေသည်။

သို့သော် အထက်ဖော်ပြပါ ဆုလာဘ်များကိုရရှိရန် သာသနာ့ပညာရှာဖွေသူများ လက်ကိုင်ထားရမည့်ရိုသေသမှုများ၊ ၚင်းတို့၏ ဓလေ့ပညတ်ချက်များကို အမြဲသတိမူနေရမည်။

ထို့ပြင်အရှင့်ကြေနပ်နှစ်သက်မှုအားရယူရန် ပညာဆည်းပူးခြင်းမျိုးဖြစ်ရမည်။ လောကီသက်တမ်းတွင် အကျိုးအမြတ်တစ်ခုခုခံစားလိုသော မက်ဆန္ဒဖြင့် သာသနာ့ပညာအား ရှာဖွေဆည်းပူးခြင်းမျိုးမဖြစ်စေရ။ ၚင်းသူများနှင့်စပ်လျဉ်း၍ ကိုယ်တော်မြတ် (ﷺ) က အောက်ပါအတိုင်းမိန့်တော်မူခဲ့သည် .....

لم يجد عرف الجنة يوم القيامة يعني ريحها.

"ၚင်းတို့သည် (ဂျန္နသ်ဝင်ရောက်ရမည်ပင်မဆိုထားနှင့်) ထိုဂျန္နသ်၏ ထုံသင်းသောမွှေးရနံ့ကိုပင် ရရှိလိမ့်မည်မဟုတ်ပေ။

မှန်ကန်စစ်မှန်သောနီယသ်၊ရိုသေသမှုများနှင့် သာသာနာ့ပညာရှာဖွေဆည်းပူးနိုင်စွမ်း ကျွန်ုပ်တို့အား မြင့်မြတ်တော်မူသောအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူပါစေ။ (အာမီးန်)



## (၅) အလ္လာဟ်၏အချစ်တော်များအား ရန်ငြိုးထားသူတို့၏ ပျက်စီးမှု

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«مَنْ عَادَى لِي وَلِيًّا فَقَدْ آذَنْتُهُ بِالْحَرْبِ».

(رواه البخاري في كتاب الرقاق، باب التواضع).

"မည်သူမဆို ငါအရှင်မြတ်၏အချစ်တော်တစ်ဦးဦးအား ရန်ငြိုးထားခဲ့မူ ငါအရှင်မြတ်သည် ထိုသူ့အားစစ်ကြေညာတော်မူမည်။"

**ရှင်းလင်းချက်**

တစ်ဦးတစ်ယောက်နှင့်ပတ်သက်၍ အရှင်မြတ်ကိုယ်တော်တိုင် စစ်ကြေညာလိုက်ပါမူ ထိုသူ့အဖို့အလွန်ပင်ကြောက်မက်ဖွယ်ကောင်းလှပါသည်။ ထိုသူ့အတွက် အဘယ်တွင်ခိုလှုံရာနေရာ ရှိမည်နည်း။

ထို့အတူ သူတော်စင်ဖြစ်ရန်အတွက် စည်းကမ်းချက်များကိုလည်း စနစ်တကျ မှတ်သားထားရမည်။ ယင်းတို့အနက် အဓိကအကျဆုံးအချက်မှာ မှန်ကန်သောယုံကြည်ချက်၊ ထို့နောက်ကိုယ်တော်မြတ် (ﷺ) ၏လမ်းစဉ်ပေါ် တသဝေမတိမ်း လိုက်နာကျင့်သုံးခြင်းနှင့် များစွာအေဗာဒသ်ပြုခြင်းတို့ဖြစ်သည်။

အရေးကြီးဆုံးအချက်မှာ မှန်ကန်သော နီယသ်(ရည်စူးချက်)နှင့် အမြဲတစေထိုနီယသ်အား သုံးသပ်နေခြင်းဖြစ်သည်။

အလ္လာဟ်၏အချစ်တော်အားသိနိုင်ရန် အလွယ်ကူဆုံးသောနည်းမှာ ၎င်းထံ ထိုင်လိုက်ရုံဖြင့် အရှင်မြတ်အားသတိရသွားခြင်းဖြစ်သည်။

(ကုရ်အာန်ကျမ်းမြတ်နှင့် ဟာဒီးဆ်တော်များကို) လေ့လာသုံးသပ်ကြည့်ပါက အရှင်မြတ်ဘက်တော်မှ နှစ်နေရာတွင် စစ်ကြေညာမှုလာရှိထားသည်။ တစ်ခုမှာ အတိုးပေး၊ အတိုးယူလုပ်သောသူများဖြစ်ပြီး၊ အခြားတစ်ခုမှာ အလ္လာဟ့်အချစ်တော် သူတော်ကောင်းများအား ရန်ငြိုးထားသူများဖြစ်ကြသည်။

ယနေ့မျက်မောက်ခေတ်တွင် ဖော်ပြပါအချက်နှစ်ချက်နှင့်ပတ်သက်၍ အလွန်မေ့လျော့ပေါ့ဆနေကြပေသည်။

လွန်လေပြီးသော သူတော်စင်ကြီးများအား ပြစ်တင်ရှုတ်ချဝေဖန်ခြင်း၊ ၎င်းတို့ကို သွားပုပ်လေလွင့်ပြောဆိုခြင်းများပြုလုပ်ရာတွင် စိုးရိမ်မှုပင်မဖြစ်တော့ချေ။ ဤကိစ္စရပ်နှင့်စပ်လျဉ်း၍ ကျွန်ုပ်တို့အပေါ်တွင် အမှန်ရောင်ဆိုးထားသော အမှားကန့်လန့်ကာများ ခြားနားနေသည်မှာ ဝမ်းနည်းဖွယ်ရာပင်ဖြစ်ပါသည်။ ဤကဲ့သို့ပြုလုပ်သူများ ကောင်းစွာစဉ်းစားထားသင့်သည်မှာ မိမိသည် ဤလုပ်ရပ်ကြောင့် အရှင်မြတ်ဒေါသနှင့် ထိုက်သက်သူဖြစ်သွားပြီလော၊ ပြစ်တင်ဝေဖန်လိုစိတ်ပြင်းပြပြီး မဆိုင်သူကိုရှုတ်ချမှုကြောင့် တမလွန်အရေး ရင်မအေးဖြစ်နေရဘိသလော၊ နောင်တမလွန်တွင် ကုသိုလ်နတ္တိဖြစ်နေပြီလော။

အကယ်၍ တစ်ဦးတစ်ယောက်သည် အရှင့်အချစ်တော်သူတော်စင်များကို ချစ်ခင်ပြီး ၎င်းတို့၏ဆောင်ရွက်ချက်များအား ထပ်မံပုံဖော်စင်မြင့်ပေါ်တင်ပေးခဲ့ပါမူ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ထိုသူ့အတွက် တရားလမ်းမှန်၏တံခါးပေါက်များပွင့်သွားပေမည်။ အရှင့်စွမ်း

အားပေးမှုသည်လည်း အမြဲတစေ၎င်းနှင့်အတူ ထပ်ချပ်မကွာလိုက်ပါသွားပေမည်။ ၎င်းသည်ကြီးမားသော အကျိုးကျေးဇူးများကိုထိုက်သက်သူဖြစ်သွားပေမည်။ အချို့အခြေအနေမျိုး၌ ကောင်းမှုပြုလုပ်ရာတွင် ပေါ့လျော့မှုများပင်လျှင် ပလပ်ချမ်းသာ ရသွားတတ်ပေသည်။ (အဘယ့်ကြောင့်ဆိုသော်) လူတိုင်းသည် ကမ္ဘာ့တရားခွင်နေ့၌ ဟရှရ် ကွင်းပြင်တွင် မိမိချစ်ခင်တွယ်တာမြတ်နိုးသူနှင့်အတူရှိပေလိမ့်မည်ဟု ချစ်နဗီ (ﷺ) ကမိန့်တော်မူထားသောကြောင့်ပင်။

"اَلْـمَرْءُ مَعَ مَنْ أَحَبَّ"

قلت: الحديث أخرجه مسلم في "باب المرء مع من أحب".



## (၆) မွတ်စ်လင်မ်တစ်ဦးအား သိက္ခာချခြင်း၏ဆိုးကျိုး

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«بِحَسْبِ امْرِئٍ مِنَ الشَّرِّ أَنْ يَحْقِرَ أَخَاهُ الْمُسْلِمَ».

(رواه مسلم في كتاب البر والصلة، باب تحريم ظلم المسلم).

"လူတစ်ယောက်အဖို့ မိမိမွတ်စ်လင်မ်နောင်တော်အား နှိမ့်ချအညွန့်ချိုးခြင်းမှာ မကောင်းမှုဖြစ်ထိုက်ရန်လုံလောက်သည်။"

**ရှင်းလင်းချက်**

ဖော်ပြပါဟဒီးဆ်တော်မြတ်သည် အလွန်ရှည်လျားသောဟဒီးဆ်တစ်ပုဒ်၏ အစိတ်အပိုင်းတစ်ခုဖြစ်သည်။ ထိုဟဒီးဆ်တော်မြတ်ထဲတွင် ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်မှာ..."မွတ်စ်လင်မ် အချင်းချင်းသည် ညီရင်းအစ်ကိုပမာဖြစ်ကြသည်။ မိမိညီနောင်အား မတရားမပြုထိုက်ပေ။ အကူအညီလိုအပ်နေချိန် မိမိနောင်တော်အား ကျောခိုင်းမထားသင့်ပေ။ ထို့ပြင်မိမိနောင်တော်အား သိက္ခာ မချရ။ (ဤဟဒီးဆ်တော်မြတ်အား ဆင့်ပြန်ခဲ့သည့်ဟဇရသ်အဗူဟိုရိုင်ရဟ် (رضي الله عنه) သခင်အမိန့်ရှိသည်မှာ... ကိုယ်တော်မြတ်(ﷺ)သည် ဤဟဒီးဆ်ကို မိန့်ကြားနေခိုက် မိမိ၏ရှေ့ရင်တော်သို့ သုံးကြိမ်သုံးခါ လက်ညှိုးညွှန်၍ မိန့်တော်မူခဲ့သည်။)" သက္ကဝါ(ခ)ရှောင်ကျဉ်မှုတရားသည် ရင်တွင်းဝယ် တည်ရှိပေသည်။ လူတစ်ယောက်အဖို့ မိမိ၏ မွတ်စ်လင်မ် နောင်တော်အား နှိမ့်ချအညွန့်ချိုးခြင်းမှာ မကောင်းမှုဖြစ်ထိုက်ရန်လုံလောက်သည်။ မွတ်စ်လင်မ်တစ်ဦး၏ ဥစ္စာပစ္စည်းတိုင်းသည် အခြား

မွတ်စ်လင်မ်တစ်ဦးအဖို့ ဂရုပြုထောက်ထားထိုက်သည်သာ။ ၎င်း၏ အသက်ဇီဝန်သည်လည်း ညာတာထောက်ချင့်ထိုက်သည်။ ၎င်း၏ သိက္ခာသည်လည်း ရှိသေလေးစား ဆင်ခြင်ထောက်ထားအပ်သည်။"

အထက်ဖော်ပြပါဟာဒီးဆ်တော်တွင် ကိုယ်တော်သခင် (ﷺ) သည် မွတ်စ်လင်မ်အချင်းချင်း သိက္ခာချအညွန့်မချိုးရန် အတန်တန်မှာတမ်း ခဲ့ပေသည်။ ထို့အတူ သက္ကဝါတရားဆိုသည်မှာ စိတ်နှလုံး၏ပုံပန်း သဏ္ဍာန် အကျင့်အကြံတို့၏ပုံဆောင်ချက်ဖြစ်သည်။ ထိုသို့မိန့်ကာ တစ်ဦးတစ်ယောက်ကို အသင်သည် ယင်း၏အပေါ်ယံ ပုံပန်းသဏ္ဍာန် များကိုကြည့်ပြီး သေးသိမ်ယုတ်ညံ့သူ၊ သိက္ခာချခြင်းခံထိုက်သူဟု မှတ် ယူလိုက်မည်။ သို့သော်၎င်း၏နာမ်ပိုင်းတွင် သက္ကဝါတရားများ ကွန့်မြူး နေပြီး အလ္လာဟ့်ထံတော်တွင် (ထိုသူသည်ဂုဏ်သရေနှင့်အညီ ကျင့် ဆောင်ကာ စိတ်သဘောမြင့်မြတ်ပြီး သဒ္ဓါတရား ထက်သန်နေသော ကြောင့်) ချီးမြှင့်မြှောက်စားထိုက်သူမျိုးဖြစ်နေတတ်သည်။ ထို့ကြောင့် မည်သည့် မွတ်စ်လင်မ်မဆို မိမိ၏မွတ်စ်လင်မ်ညီနောင်အား အခြေ အနေတိုင်းတွင် သေးသိမ်စေသောအကြည့်ဖြင့်မကြည့်သင့်ပေ။

ယနေ့ခေတ်တွင် ပြစ်တင်ဝေဖန်ရှုတ်ချမှု၊ နောက်ကွယ်အတင်း ပြောဆိုမှု၊ ထိုထက်ဆိုးရွားသည်မှာ အများသူငှာရှေ့တွင် အခြားသူများ ကိုသိက္ခာချ အညွန့်ချိုးသည့် ဆိုးရွားသောအကျင့်များ မင်းမူနေသည်။

ဤဟာဒီးဆ်တော်မြတ်တွင် ထိုယုတ်ညံ့လှသည့်လုပ်ရပ်များမှ တား မြစ်ထားသည်။ "မွတ်စ်လင်တစ်ဦးသည် အခြားမွတ်စ် လင်မ်တစ်ဦး

အား သေးသိမ်သောအရှုပြင့်လည်းမရှုသင့်ပေ။ ထို့အတူ ၎င်း၏သိက္ခာ တရားကိုလည်း အဖတ်ဆယ်မရအောင် မပြုထိုက်ပေ။" ဟုမိန့်လိုက်ပေသည်။

လူတိုင်းကို မိမိ၏တအူတုံ့ဆင်း ညီရင်းအစ်ကို ပမာမြင်ရမည်။ အဘယ့်ကြောင့်ဆိုသော် မွတ်စ်လင်တစ်ဦးသည်အခြားမွတ်စ်လင်မ်တစ် ဦးနှင့် သာသနာ့ညီနောင်များဖြစ်ကြသည်။ မိမိအတွက်လိုလားသော အရာများကိုသာလျှင် အခြားမွတ်စ်လင်မ်တို့အတွက်လည်း နှစ်သက် ရမည်။ ဤသည်ပင် နှလုံးသားတွင်းရှိအီမာန်၏ တောင်းဆိုချက်ဖြစ် သည်။ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူခဲ့သည်မှာ ....

"لا يؤمن أحدكم حتى يحب لأخيه ما يحب لنفسه".

قلت: الحديث أخرجه علي المتقي في كنز العمال: باب في المجاز والشعب: ج: 1، ص: 41).

အသင်တို့အနက် မည်သူမဆို မိမိအတွက်လိုလားနှစ်သက်သော အရာအား မိမိညီနောင်အတွက် မနှစ်သက်ပေးသမျှ ထိုသူသည်ပြည့် ဝသော အီမာန်ရှင်မဖြစ်နိုင်ပေ။



## (၇) မကောင်းထင်မြင် သင်္ကာမကင်းဖြစ်ခြင်း

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«إِيَّاكُمْ وَالظَّنَّ، فَإِنَّ الظَّنَّ أَكْذَبُ الْحَدِيْثِ».

(رواه البخاري في كتاب النكاح، "باب لا يخطب على خطبة أخيه". ومسلم في كتاب البر والصلة، "باب تحريم الظن").

"မကောင်းထင်မြင်ခြင်း၊သင်္ကာမကင်းဖြစ်ခြင်းမှရှောင်ကြဉ်ကြကုန်။ အကြောင်းမှာ မကောင်းထင်မြင်ခြင်းသည် မဟာမုသားဖြစ်သည်။"

### ရှင်းလင်းချက်

မကောင်းထင်မြင်ခြင်းသည် သံသယပေါ်အခြေခံသည့် မုသားတစ်မျိုးဖြစ်သည်။ ဤရောဂါဆိုးဆွဲကပ်နေသောသူသည် တစ်ဦးတစ်ယောက်နှင့် သဘောထားချင်းမတိုက်ဆိုင်လေတိုင်း သင်္ကာမကင်းခြင်း၏ ဝဲဂယက်ထဲတဝဲလည်လည်ဖြစ်ကာ ယင်းပုဂ္ဂိုလ်၏စေတနာမွန်များသည်ပင် ၎င်းအဖို့ဝေဒနာများဖြစ်ရလေတော့သည်။ ထိုမကောင်းထင်မြင်သင်္ကာမကင်းဖြစ်မှုကြောင့် (မိမိ၏အပြစ်မဲ့သောနောင်တော်) အား မအပ်စပ်သော လုပ်ကြံလိုဆယ်ထားသည့် ကိစ္စရပ်များဖြင့် နှိုးနှယ်ပေးတတ်သည်။

အပြင်ပိုင်းဆက်ဆံရေးများသည်လည်း အလိုလိုပြောင်းလာမည်။ ထိုအခါ မကောင်းမြင်ခြင်းခံရသူဘက်မှလည်း ချေပချက်များပေါ်ထွက်လာမည်။ ဤအတိုင်းပင် အချင်းချင်းစိတ်ဝမ်းကွဲပြီး ခင်မင်ရင်းနှီးမှု၏ နှောင်ကြိုးများ ပြတ်တောက်သွားနိုင်သည်။

ကိုယ်တော်မြတ် (ﷺ) သည် ဤဟဒီးဆ်တော်မြတ်တွင် မကောင်းထင်မြင်ခြင်းအား أَكْذَبُ الْحَدِيْثِ (မဟာမုသားစကား) ဟုမိန့်ထားပေသည်။ ယင်း၏အလိုသဘောမှာ တစ်ဦးတစ်ယောက်၏ဆန့်ကျင်ဘက်နှုတ်လျှာမှ မုသားစကားထွက်သွားခြင်းသည် ဆိုးရွားလှသည့်အကုသိုလ်ဖြစ်ခြင်းကို မွတ်စ်လင်မ်တိုင်းသိရှိပေသည်။ သို့သော်မွတ်စ်လင်မ် တစ်ဦးတစ်ယောက်အား မကောင်းထင်မြင်ခြင်းကို (ကျွန်ုပ်တို့ပတ်ဝန်းကျင်တွင်) မည်သူမှ ဆိုးရွားသောအကုသိုလ်ဟုမယူဆကြပေ။

ထို့ကြောင့်ကိုယ်တော်မြတ် (ﷺ) က မကောင်းထင်မြင်မှုမှာ ပိုမိုဆိုးရွားလှသော အကုသိုလ်ဖြစ်ကြောင်း၊ နှလုံးသားတွင်းတည်နေသောအကုသိုလ်မှာ လျှာ၏အကုသိုလ်ထက်မသေးကြောင်း၊ ဤသို့ မကောင်းထင်မြင်တတ်သည့်ရောဂါကြောင့် နှလုံးသားထဲတွင် မုသား၊ ရန်ငြိုးထားခြင်း၊ မလိုမုန်းတရားတို့၏မျိုးစေ့ကျသွားခြင်း၊ အချင်းချင်းချစ်ခင်မှု၊ စာနာထောက်ထားမှု၊ အေးအတူပူအမျှခံစားတတ်မှုစသည့်ညီရင်းအစ်ကိုစိတ်ဓါတ်များကို ပုံဖော်ပေးမည့် အီမာန့်နှောင်ကြိုးများသည် ထိုရောဂါဆိုးကြောင့် ပြတ်တောက်သွားမည်ဖြစ်ကြောင်း မိန့်ဆိုထားခြင်းဖြစ်သည်။

အရှင်သခင်အားလုံးကို ထိုရောဂါဆိုးမှ ခိုလှုံခွင့်ပေးသနားတော်မူပါစေ။ အာမီးန်

❍❍❍

## (၈) ကူညီရိုင်ပင်းခြင်း၏အစား

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«اَللّٰهُ فِيْ عَوْنِ الْعَبْدِ مَا كَانَ الْعَبْدُ فِيْ عَوْنِ أَخِيْهِ».

(رواه مسلم في كتاب الذكر والدعاء، "باب فضل الاجتماع على تلاوة القرآن").

"တစ်ဦးတစ်ယောက်သည်မိမိနောင်တော်အား ကူညီနေသမျှကာလ ပတ်လုံး မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းအားကူညီနေတော်မူမည်။"

### ရှင်းလင်းချက်

အချင်းချင်းယိုင်းပင်းကူညီခြင်း၊ မိမိတို့အတွင်း ညီရင်းအစ်ကိုစိတ်ဓါတ်များမွေးမြူခြင်းတို့နှင့်ပတ်သက်၍ ဟဒီးတော်များတွင် အထူးတလည် မိန့်ချွေချက်များလာရှိထားပေသည်။ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်ကလည်း အောက်ပါအတိုင်း မိန့်တော်မူထားသည်

وَتَعَاوَنُوْا عَلَى الْبِرِّ وَالتَّقْوٰى، وَلَا تَعَاوَنُوْا عَلَى الْإِثْمِ وَالْعُدْوَانِ. [المائدة: ٢].

"ထို့ပြင် အသင်တို့သည် ကောင်းမှုကုသိုလ်ပြုရာ၌လည်းကောင်း၊ မကောင်း မှုဒုစရိုက်မှကြဉ်ရှောင်ရာတွင်လည်းကောင်း၊ အချင်းချင်း ကူညီယိုင်းပင်းကြလေကုန်။ သို့ရာတွင် ပြစ်မှုဒုစရိုက်ကို ပြုကျင့်ရာတွင်လည်းကောင်း၊ ကျူးကျော်စော်ကားရာတွင်လည်းကောင်း၊ အချင်းချင်း ယိုင်းပင်းကူညီခြင်းကိုမပြုကြကုန်လင့်။"

ဖော်ပြပါ ဟဒီးဆ်တော်မြတ်တွင် ကိုယ်တော်မြတ် (ﷺ) သည် အချင်းချင်း ယိုင်းပင်းကူညီခြင်း၏ မပျက်သုဉ်းမည့်အကျိုးတရားများ

ကိုမိန့်မြွက်ထားပေသည်။ "မွတ်စ်လင်မ်တစ်ဦးသည် မိမိနောင်တော် အားကူညီနေသ၍ အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းအားကူညီ စောင်မနေတော်မူမည်။" ထို့နောက် အစ္စလာမ့်ပတ်ဝန်းကျင်တစ်ခုဖန် တီး တည်ထောင်ရာတွင်လည်း အချင်းချင်းယိုင်းပင်းကူညီမှုသည် အလွန်အရေးကြီးလိုအပ်သည်။ ထို့ကြောင့်လည်း အချင်းချင်းယိုင်း ပင်းကူညီခြင်း၏ အကျိုးကျေးဇူးများကို တင်ပြထားပြီး ထိုကိစ္စရပ် အပေါ်တိုက်တွန်းချက်များ လာရှိနေခြင်းဖြစ်သည်။

မွတ်စ်လင်မ်ကျမ်း၏ ဟဒီးဆ့်ကုဒ္ဒူစီ (အဓိပ္ပါယ်သည် အရှင်မြတ် ဘက်မှဖြစ်ပြီး စာလုံးများမှာ ကိုယ်တော်မြတ် (ﷺ) ဘက်မှဖြစ်သော ဟဒီးဆ်)တွင် အမိန့်တော်ရှိထားသည်... "ကေယာမသ်နေ့တွင် မြင့် မြတ်တော်မူသောအရှင်မြတ်သည် လူသားအားမိန့်တော်မူမည်။ အို- အာဒမ်၏သား... ငါအရှင်မြတ်နာမကျန်းဖြစ်နေချိန် အသင်သည် ငါ့အား အဘယ်ကြောင့်လာရောက် လူမမာမမေးသနည်း။ ထိုအခါ လူသားက လျှောက်ထားလိမ့်မည်။ အို-မွေးမြူဖန်ဆင်းတော်မူသောအရှင်၊ အရှင်မြတ်သည် စကြာဝဠာအပေါင်းကို ပိုင်စိုးတော်မူသည်ဖြစ်ရာ ကျွန်ုပ်မှာ မည်သည့်ပုံစံဖြင့်အရှင်မြတ်ကို လူမမာမေးရမည်နည်း။

(ထိုအခါ) အလ္လာဟ်အရှင်မြတ်က အောက်ပါအတိုင်း မိန့်တော်မူ မည်။ ငါအရှင်၏ကျေးကျွန်မည်သူမည်ဝါ နာမကျန်းဖြစ်ခဲ့ရာ အသင် သည် ၎င်းအား လူမမာသွားရောက်မေးဖော်ပင်မရပေ။ အကယ်၍ အသင်သည် ၎င်းအားသွားရောက်မေးမြန်းခဲ့ပါမူ ငါအရှင်မြတ်အား

ထိုသူအနီးအပါးတွင် တွေ့နိုင်အံ့။ ထို့နောက် မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်မိန့်တော်မူမည်.... အို-အာဒမ်၏သား...ငါအရှင်မြတ်သည် အသင့်ထံမှ အစားအစာတောင်းခံခဲ့ရာ အသင်သည် ငါအရှင်မြတ်အား မကျွေးခဲ့ပေ။ ထိုအခါ ကျေးကျွန်က အို-ဖန်ဆင်းရှင်.... အရှင်သည် စကြာဝဠာအားလုံးအား ပိုင်စိုးတော်မူရာ ကျွန်ုပ်အဘယ်တွင် အရှင့်အား ကျွေးမွေးနိုင်အံ့နည်း။ ထိုအခါ အရှင်မြတ်အမိန့်တော်ရှိမည်။ အသင်မသိလေသလော ငါ၏ကျေးကျွန်တစ်ယောက်သည် အသင့်ထံမှ အစားအစာတောင်းခံခဲ့ရာ အသင်မကျွေးမွေးခဲ့ပေ။ အသင်၎င်းအား ကျွေးမွေးခဲ့မည်ဆိုပါက ငါအရှင်မြတ်အား ၎င်းအနီးအပါးတွင် တွေ့နိုင်အံ့။ ထိုနည်းအတိုင်း မြင့်မြတ်တော်မူသောအရှင်မြတ်သည် ရေတိုက်ကျွေးခြင်းနှင့်ပတ်သက်၍ မိန့်တော်မူမည်မှာ.... အကယ်၍အသင်သည် ၎င်းအား ရေတိုက်ကျွေးခဲ့ပါမူ အသင်သည်ငါ့အား ယင်းအနီးတွင်တွေ့နိုင်အံ့။

ဖော်ပြပါ ဟဒီးဆ်တော်မြတ်အားလေ့လာပြီး သိရှိလိုက်ရသည့် အချက်မှာ မွတ်စ်လင်မ်တစ်ဦးသည် အခြားမွတ်စ်လင်မ်တစ်ဦးအား ကူညီနေပါမူ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းအပေါ်မိမိ ဂရုဏာတော်၊ ကူညီစောင်မမှုတို့၏ခြုံထည်အား လွှမ်းခြုံပေးတော်မူမည်။

၀၀၀

## (၉) မွတ်စ်လင်မ့်ဂုဏ်ရည်

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«اَلْمُسْلِمُ مَنْ سَلِمَ الْمُسْلِمُوْنَ مِنْ لِسَانِهِ وَيَدِهِ».

(رواه مسلم في كتاب الإيمان، "باب جامع أوصاف الإسلام").

" စစ်မှန်သော မွတ်စ်လင်မ်ဆိုသည်မှာ ၎င်း၏နှုတ်လျှာ၊ လက်တို့မှ အခြား မွတ်စ်လင်မ်များငြိမ်းချမ်းစွာနေရသူဖြစ်သည်။"

### ရှင်းလင်းချက်

အကာအိဒ် (ယုံကြည့်ချက်များ)၊ ဖရာအိဇ် (မလုပ်မနေရတာဝန်များ)၊ဟုကူးကုလ္လာဟ်(အရှင့်ဝတ္တရားများ)ကို ကျေပွန်စွာထမ်းဆောင်ပြီးသည့်နောက် လူသားအချင်းချင်း၏ဝတ္တရားများအား ကျေပွန်စွာ ထမ်းဆောင်ခြင်းမှာ အရေးကြီးဆုံးဖြစ်သည်။

သတိပြုထိုက်သည့်အချက်မှာ မြင့်မြတ်တော်မူသော အရှင်မြတ်သည် မိမိနှင့်သက်ဆိုင်သည့် ဝတ္တရာများနှင့်ပတ်သက်ပြီး ပျက်ကွက်ခဲ့သူကို ခွင့်လွှတ်ပေးမည်ဖြစ်သည်။ သို့သော် လူသားအချင်းချင်းဆိုင်ရာ ဝတ္တရာများအား ပျက်ကွက်ခြင်းနှင့်ပတ်သက်၍ ခွင့်လွှတ်ခြင်းကိစ္စကိုမူ ကာယကံရှင်၏သဘောအတိုင်း ဆောင်ရွက်စေမည်ဖြစ်သည်။

မွတ်စ်လင်မ်ကျမ်း၏ ဆင့်ဆိုချက်တစ်ရပ်အရ နဗီတမန်တော်မြတ် (ﷺ) သည် ထိုင်းဝိုင်းတစ်ခုတွင် ဆွဟာဗာသာဝကကြီးများအား"ဆင်းရဲနွမ်းပါးဆုံးသောသူမည်သူဖြစ်မည်နည်း"ဟုမေးမြန်းတော်မူရာ သာဝကကြီးများက ကျွန်ုပ်တို့ထံတွင် ဆင်းရဲနွမ်းပါးဆုံးသောသူသည် ငွေ ကျေး၊

ဥစ္စာခနေ မပေါကြွယ်ဝသူဖြစ်သည်။ ထိုအခါနဗီတမန်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည် ..."ငါကိုယ်တော်၏ အွမ္မသ်ထဲတွင် ဆင်းရဲမွဲတေဆုံးသောသူဟူသည်မှာ ကေယာမသ်နေ့တွင် နမားဇ်၊ ရိုဇာ၊ ဇကားသ်တို့၏အကျိုးများအား ယူဆောင်လာပေမည်။ သို့သော် တစ်ဦးဦးအား သတ်ဖြတ်ခဲ့မည်၊ ဆဲရေးတိုင်းထွာမှုပြုခဲ့မည်၊ တစ်ဦးတစ်ယောက်အား မဟုတ်မမှန်စွပ်စွဲခဲ့မည်၊ တစ်ဦးတစ်းယောက်၏ ဥစ္စာပစ္စည်းအား မတရားစားသုံးခဲ့မည်၊ တစ်ဦးတစ်ယောက်အား မတရားရိုက်ပုတ်ခဲ့မည်။ ထို့ကြောင့်ကေယာမသ်နေ့တွင် ၎င်း၏ကောင်းမှုများမှာ မတရားပြုခံထားရသူများကို ပေးလိုက်ရပြီး တဖြည်းဖြည်းကုန်ခမ်းသွားမည်။ သို့သော်လည်း ကာယကံရှင်တို့ဘက်မှ မကျေနပ်နိုင်သေးသောကြောင့် ထပ်မံပေးဆောင်ရန်မရှိသည့်အဆုံး ထိုသူတို့၏အကုသိုလ်များကို ယင်းသူ၏စာရင်းတွင် ရေးမှတ်ပေးလိုက်မည်။ ထို့နောက် ဂျဟန္နမ်ငရဲဘုံသို့ ပစ်ချခံရပေမည်။"

အလွန်ကြောက်ရွံ့ စိုးရိမ်ထိတ်လန့်ဖွယ်ပင်။ (လူသား) အချင်းချင်းဆိုင်ရာအပေးအယူများ၊ ဝတ္တရားများနှင့်ပတ်သက်၍ ကျွန်ုပ်တို့ပေါ့ဆနေကြပေသည်။ ထိုပေါ့ဆမှုကြောင့် ကျွန်ုပ်တို့အာခေရသ်ရေး၌ လွန်စွာပင် သောကများပွားစရာဖြစ်လာရသည်။ ယနေ့ခေတ်တွင် အေဗာဒသ်လုပ်သူများ၊ နဖိလ်နမားဇ်များကို ဂရုတစိုက်ပြုလုပ်သူများပင်လျှင် ဤကဏ္ဍတွင် ပျက်ကွက်လျစ်လျူရှုနေကြသည်ကို တွေ့ရပေသည်။

အထူးသဖြင့်နှုတ်လျှာအား ထိန်းသိမ်းရမည်။ ထိုနှုတ်လျှာကြောင့် မုအ်မင်န်တစ်ဦးကိုစိတ်ထိခိုက်ခြင်း မရှိစေရပေ။

တစ်ခါတရံ နှုတ်လျှာကပေးသောဒဏ်ရာမှာ (နှလုံးသားအဖို့) ဓါး ဒဏ်ရာများထက်ပင် ပိုမိုနာကြင်ခါးသီးပေသည်။ ထိုကြောင့် ကျွန်ုပ်တို့၏ အပြောနှင့် လုပ်ရပ်တို့ကြောင့် မည်သည့်လူသားတစ်ဦးမှ စိတ်ဒုက္ခ မရောက်သွားစေရန် အမြဲဂရုမူနေရပေမည်။ သို့မှသာ ကျွန်ုပ်တို့၏ အီမာန်သည် ပြည့်ဝသွားပေမည်။ အာခေရသ်၏ အဇာဗ်ညွှတ်ကွင်းမှလည်းလွတ်ကင်းသွားပေမည်။ ဟရှရ်ကွင်းပြင်တွင် အထက်ပါဟဒီးဆ်တော်တွင် ဖော်ပြခဲ့သည့် ချွတ်ခြုံကျ ဒေဝါလီခံသွားရသူကဲ့သို့ ဖြစ်ခြင်း မှကင်းဝင်းရပေမည်။



## (၁၀)အကြင်နာတရားရင်မှာထားချင်သည့်စိတ်ဓါတ်

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«مَنْ لاَ يَرْحَمُ لاَ يُرْحَمُ».

(رواه مسلم في كتاب الفضائل، "باب رحمة النبي صلى الله عليه وسلم").

"အခြားသူများအား မကြင်နာတတ်သူသည် ကြင်နာခံရမည်လည်း မဟုတ်ပေ။"

**ရှင်းလင်းချက်**

ကိုယ်ကျင့်တရားများ ကောင်းစားရေးနှင့်ပတ်သက်၍ ရစူလ် ကိုယ်တော်မြတ်(ﷺ) မိန့်မှာသင်ကြားပေးခဲ့သည့်ကဏ္ဍများတွင် အလေး ပေးခံရဆုံး ကဏ္ဍတစ်ခုမှာ "လူသားသည်အခြားသူများနှင့် အကြင်နာ တရားရင်မှာထားပြီး ဆက်ဆံရန်ဖြစ်သည်"။ ကိုယ်တော်မြတ်သည် ထို ကိစ္စ၏ ကြီးကျယ်မှုအား ဖော်ကျူးရန်အတွက် "သနားကြင်နားခြင်း သည် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်ဖြစ်သည်။ အလ္လာဟ်အရှင် မြတ်သည် လူသားတို့အချင်းချင်း နူးညံ့သိမ်မွေ့စွာဆက်ဆံခြင်းကို လို လားနှစ်သက်တော်မူသည်။ အရှင်မြတ်သည် ကြမ်းတမ်းမှုကြောင့် မချီး မြှင့်သောအရာတို့အား နူးညံ့သိမ်မွေ့မှုကြောင့် ချီးမြှင့်တော်မူသည်" ဟု မိန့်ကြားခဲ့သည်။

နေ့စဉ်ကျွန်ုပ်တို့ ကြုံတွေ့နေရသည်မှာ အချင်းချင်းကြင်နာယုယမှု၊ နူးညံ့သိမ်မွေ့မှုတို့ကြောင့် ခဲခက်နေသောကိစ္စရပ်များ လွယ်ကူသွားပေ သည်။ (သံထည်လိုမာကြောနေသော စိတ်နှလုံးများသည်လည်း ဖော့ဖ

ယောင်းကဲ့သို့ ပျော့ပြောင်းသွားတတ်ပေသည်။) ထိုသို့ (သဘောထား နူးညံ့ခြင်း၊နူးညံ့သိမ်မွေ့ခြင်းတို့တွင်)အရှင်မြတ်၏သီးသန့်ချီးမြှင့်မှုများ၊ အရှင့်ကရုဏာအရှုမျှား ပါဝင်သွားပေသည်။ ဤသည် ချစ်နဗီ၏လမ်း စဉ်တော်တစ်ရပ်လည်းဖြစ်သည်။

ဤအချက်၏ ဆန့်ကျင်ဖက်တွင် မချေမငံဆက်ဆံသူများ၊ မပျူမ ငှာဆက်ဆံသူများသည် အရှင့်ကရုဏာ ဆာယာအရိပ်မှ ဝေးကြရလေ သည်။ (أعاذنا الله منه)

(ကျွန်ုပ်တို့အားလုံး အရှင့်ထံထိုအဖြစ်ဆိုးမှ ကင်းရန်ဆုပန်ပါ၏။)



## (၁၁) ဆွေမျိုးများအား အဆက်ထား

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «مَنْ كَانَ يُؤْمِنُ بِاللَّهِ وَالْيَوْمِ الْآخِرِ فَلْيَصِلْ رَحِمَهُ».

(رواه البخاري في كتاب الأدب، ''باب حق الضيف'').

"အလ္လာဟ်အရှင်မြတ်နှင့် နောင်အာခေရသ်အပေါ် ယုံကြည်သူအဖို့ ဆွေမျိုးမဖြတ်ထိုက်ပေ။"

**ရှင်းလင်းချက်**

အစ္စလာမ်၏ သွန်သင်ဆုံးမ၊ ပဲ့ပြင်လမ်းပြ၊ ညွှန်ကြားရေးသြဝါဒများတွင် မိဘနှစ်ပါးနှင့် ဆွေမျိုးညာတိများအား ကောင်းမွန်စွာဆက်ဆံရန်လာရှိထားပေသည်။ ဆွေမျိုးသားချင်းများနှင့် အဆက်ထားခြင်းဆိုသည်မှာ ခေါင်းစဉ်ကြီးတစ်ခုဖြစ်သည်။ ဆွေမျိုးထဲတွင် ပထမ ဦးစားပေးအဆင့်တွင် မိဘနှစ်ပါးရှိသည်။ ထိုမိဘနှစ်ပါးတွင်လည်း မိခင်သည် ပထမဖြစ်သည်။ မှန်ကန်စစ်မှန် မြတ်ကုရ်အာန်ထဲတွင် မိဘနှစ်ပါးနှင့် ရည်မွန်စွာဆက်ဆံရန် တိုက်တွန်းချက်များလာရှိထားပေသည်။

ဤကမ္ဘာတွင် လျစ်လျူရှုသောသူတို့အတွက် ဟဇရသ်ဂျစ်ဗ်ရအီးလ်၏ ကျိမ်စာရှိပေသည်။ ယင်းကျိမ်စာအပေါ် နှစ်ဘဝသခင်ကျေးဇူးတော်ရှင် (ﷺ) သခင်ကိုယ်တိုင် ထောက်ခံ အာမီးန်ဆိုခဲ့ပေသည်။ မုချကေန် ထိုကဲ့သို့သော ကျိမ်စာသင့်သူသည် မပျက်စီးဘဲ အဘယ်တွင်နေနိုင်အံ့မည်နည်း။

မိဘနှစ်ပါးနောက်တွင် အခြားသောဆွေမျိုးသားချင်းများ၏ အဆင့်ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် မိဘနှစ်ပါးနှင့် ကောင်းမွန်စွာဆက်ဆံရန် မှာတမ်းပြီးလေတိုင်း(وذوي القربى)(အခြား ဆွေမျိုးသားချင်းများနှင့်)ကောင်းမွန်စွာဆက်ဆံရန်မှာတမ်းမှုများလာရှိထားပေသည်။

ဤဟဒီးဆ်တော်တွင်လည်း ဖော်ပြပါအချက်အား အီမာန်၏အစိတ်အပိုင်းတစ်ခုအဖြစ် မိန့်ထားပေသည်။ အခြားဟဒီးဆ်တော်တစ်ပုဒ်တွင် ထိုအချက်အား အသက်ရှည်လျားစေရန်နှင့် ရိဇ်ဇ်ရိက္ခာကျယ်ဝန်းစေရန် အကြောင်းခံများဖြစ်ကြောင်းမိန့်ဆိုထားပေသည်။

ဆွေမျိုးဖြတ်သူများအား ဂျန္နသ်သုခံဘုံသို့သွားရာ လမ်းမှန်မှ သွေဖည်တိမ်းမှား၊ လွဲချော်သူများဟု မိန့်ခွေချက်လာရှိထားပေသည်။

များသောအားဖြင့် (လူ့ပတ်ဝန်းကျင်)တွင် ဆွေမျိုးဆက်ချင်းသည် "သင်ကောင်းလျှင်ကျွန်ုပ်မဆိုးပါ" ဆိုသည့်စကားဆိုအတိုင်း မိမိအား ဆွေမျိုးဆက်သူများကိုသာ ဆွေမျိုးဆက်ကြသည်။

သို့သော်ဟဒီးဆ်တော်တွင် "သင်ကောင်းလျှင် ကျွန်ုပ်မဆိုးပါ" ဟူသော ဆောင်ပုဒ်အတိုင်းပြုကျင့်သူသည် ဆွေမျိုးဆက်သူမဟုတ်။ "သင်မကောင်းလျှင်လည်း ကျွန်ုပ်မဆိုးပါ" ဟုဆိုကာ ဆွေမျိုးဖြတ်သူကို အကောင်းဖြင့်တုန့်ပြန်သူသာ ဆွေမျိုးဆက်သူဖြစ်သည်။

وفقنا الله تعالى لذلك

မြင့်မြတ်တော်မူသော အရှင်မြတ်ကျွန်ုပ်တို့အားလုံးအား လိုက်နာနိုင်သည့်
သောင်က်ဖီးက်စွမ်းအား ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်။

❍❍❍

## (၁၂) ဂုဏ်ပေးလေးစား အိမ်နီးနားချင်းအား

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «مَنْ كَانَ يُؤْمِنُ بِاللهِ وَالْيَوْمِ الْآخِرِ فَلْيُكْرِمْ جَارَهُ».

(رواه البخاري في كتاب الأدب،ومسلم في كتاب الإيمان، "باب الحث على إكرام الجار والضيف").

"အလ္လာဟ်အရှင်မြတ်နှင့် နောင်အာခိရေသ်အား ယုံကြည်သူသည် အိမ်နီးနားချင်းများအား ဂုဏ်ပေးလေးစားရမည်။"

### ရှင်းလင်းချက်

လူသားသည် ဆွေမျိုးသားချင်းများအပြင် အနီးစပ်ဆုံးအနေဖြင့် အိမ်နီးနားခြင်းများနှင့် ပတ်သက်ဆက်နွယ်ရသည်။ ထိုအိမ်နီးနားချင်းများနှင့်ပြေလည်သင်တင့်မှုသည် ဘဝတစ်ခုလုံးတွင် ချမ်းမြေ့သာယာမှု၊ တည်ငြိမ်းအေးဆေးမှုတို့အား တည်ဆောက်ပေးသည်။

နှစ်ဘဝသခင်ကျေးဇူးတော်ရှင် ကိုယ်တော်မြတ် (ﷺ) သည် မိမိ၏ ပွဲပြင်၊ သွန်သင်လမ်းညွှန်မှုများတွင် အိမ်နီးနားချင်းများကြား ဤရစ် ပတ်ဆက်နွယ်နေသော နှောင်ကြိုးအား အထူးတလည်အရေးတယူ ဖော်ပြလေ့ရှိသည်။ ထိုအိမ်နီးနားချင်းများအား ဂုဏ်ပေးလေးစား၊ အလေးထားရန်လည်း အထူးတလည်မိန့်မှာခဲ့ပေသည်။ သို့သာမက ထိုကိစ္စရပ်အား အီမာန်၏အစိတ်အပိုင်းတစ်ခု၊ ဂျန္နသ်ဝင်ရောက်ရန် စည်းကမ်းချက်၊ ထို့နောက်ကိုယ်တော်မြတ်ကြီး (ﷺ) အားချစ်မြတ်နိုး ခြင်း၏ စံချိန်အဖြစ်သတ်မှတ်ထားသည်။ ဟဒီးဆ်တော်တစ်ပုဒ်တွင် မိန့်တော်မူသည် .... "ဟဇရသ် ဂျစ်ဗ်ရအီးလ်သည် (ငါကိုယ်တော်မြတ် အား အိမ်နီးနားချင်းများနှင့်ပတ်သက်၍ အထူးတလည်မိန့်မှာလေ့ရှိရာ ၎င်းတို့ကိုအမွေစားအမွေခံအဖြစ် သတ်မှတ်မည်ဟုပင် ထင်မိလာ သည်။" အိမ်နီးနားချင်းတို့အား သက်သောင့်သက်သာမှုပေးခြင်း၊ ၎င်း

တို့၏စားဝတ်နေရေးနှင့်ပတ်သက်၍ သောကပိုက်ခြင်း၊ ပရဟိတစိတ် အပြည့်ဖြင့် ပညာမတတ်သူများကို သာသနာနှင့်ပတ်သက်၍ သင်ကြားပေးရန် သောကပိုက်ကြိုးစားခြင်းတို့သည်လည်း အိမ်နီးနားချင်းတို့၏ ဝတ္တရားများတွင်ပါဝင်သည်။ ဤအချက်သည် လူအများစု မေ့လျော့နေသည့် သာသနာ့ကဏ္ဍတစ်ခုဖြစ်သည်။ ဝမ်းနဲကြေကွဲဖွယ်ရာ တစ်ရပ်မှာ အိမ်နီးနားချင်းများ၏ ဝတ္တရားများသည် နစ်နာပျက်ပြားနေသည်။ အထူးသဖြင့် ဤ IT ခေတ်တွင်မူ အိမ်နီးနားချင်း အချင်းချင်း မေးဖော်ခေါ်ဖက် ဆေးဖော်ကြောဖက် လုပ်ရန်ပင်အခွင့်အခါ မသာချေ။ အချို့အခြေအနေများတွင်မူ နှစ်ပေါင်းများစွာ ကုန်ခမ်းသွားသော်လည်း သူစိမ်းဆန်ဆန်ပင်ရှိနေပေသည်။ အမှန်မှာ ဟာဒီးဆ်တော်များတွင် အိမ်နီးနားချင်းများအား ကြည့်ရှုစောင့်ရှောက်ရန် တိုက်တွန်းထားသည်။ ဟင်းချက်ပြုတ်ရာတွင်လည်း အိမ်နီးနားချင်းတို့အတွက်ပါ ဟင်းရည်ပိုချက်ရန် အမိန့်တော်များလာရှိထားပေသည်။ ဤနေရာတွင် ဂရုပြုထိုက်သည်မှာ အနီးဆုံးအိမ်နီးချင်းသည် ပိုမိုဂရုစိုက်ရန် အထိုက်သက်ဆုံးဖြစ်သည်။

မြင့်မြတ်တော်မူသော အရှင်မြတ် ကျွန်ုပ်တို့အား ပြုလုပ်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ ဖော်ပြပါဟာဒီးဆ်တော်မြတ်များအား ကျွန်ုပ်တို့ ဘဝလမ်းခရီးအတွက် မီးရှူးတိုင်များအဖြစ်ပြုလုပ်ပေးသနားတော်မူပါ။ အာမီးန်။

၀၀၀

## (၁၃) ဧည့်ဝတ်ပြုခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «مَنْ كَانَ يُؤْمِنُ بِاللّٰهِ وَالْيَوْمِ الْآخِرِ فَلْيُكْرِمْ ضَيْفَهُ».

(رواه مسلم في كتاب الإيمان، "باب الحث على إكرام الجار والضيف").

"အလ္လာဟ်အရှင်မြတ်နှင့်အလ္လာဟ့်ရစူလ်ပေါ်အီမာန်သက်ဝင်ယုံကြည်သည့်မိမိဧည့်သည်အားဂုဏ်ပေးလေးစား(ဧည့်ဝတ်ပြုပေး)ပါ။"

**ရှင်းလင်းချက်**

အစ္စလာမ်၏သင်ကြားလမ်းညွှန်မှုများတွင် ဧည့်သည်အားဂုဏ်ပေးလေးစားခြင်းမှာ အရေးပါလှပေသည်။ ဧည့်သည်၏ ဝတ္တရားများအား ကျေပွန်စွာထမ်းဆောင်ခြင်း၊ ၎င်းအားအေးချမ်းစွာထားနိုင်ရန် သောကပိုက်ခြင်းတို့မှာ အီမာန်၏တောင်းဆိုချက်များဖြစ်ပေသည်။ တစ်ခါက ကိုယ်တော်မြတ်(ﷺ)၏ ထံတော်ပါးတွင် လူအချို့ အခစားဝင်ခဲ့သည်။ ကိုယ်တော်မြတ်သည် မိမိ၏ကြင်ယာတော်များအိမ်၌ (ဧည့်ဝတ်ပြုတည်ခင်းကျွေးမွေးရန်)မေးမြန်းရာ ၎င်းတို့ထံတွင် ဘာမျှမရှိခဲ့ချေ။ ကိုယ်တော်မြတ် (ﷺ) မိန့်တော်မူသည်... "ယနေ့ည မည်သူဧည့်သည်များအား ဧည့်ဝတ်ပြုမည်နည်း။ ဆွဟာဗီတစ်ပါးက ၎င်းတို့အား မိမိအိမ်တော်သို့ ခေါ်ဆောင်သွားခဲ့သည်။ အိမ်၌လည်း ကလေးငယ်များအတွက်သာ အစားအစာရှိခဲ့သည်။ ထိုဆွဟာဗီသည်မိမိ၏ ဇနီးသည်အား ကလေးငယ်များကို ချော့မော့သိပ်လိုက်ရန် ပြောကြားခဲ့သည်။ ထို့နောက် ညစာအားတည်ခင်းပြီး ပရိယာယ်တစ်ခုခုဖြင့် မီးခွက်အား

ငြိမ်းပစ်စေသည်။ ကျွန်ုပ်တို့သည်လည်း ၎င်းဧည့်သည်တော်များနှင့် အတူ စားသောက်နေဟန်ဖြင့် ထမင်းဝိုင်းတွင် ထိုင်လိုက်ရမည်။ ဇနီး သည်မှာလည်း ခင်ပွန်းသည်မှာတမ်းသည့်အတိုင်းပြုမူခဲ့ပြီး နှစ်ဦးလုံး သည် ဝမ်းဗိုက်ဆာလောင်စွာဖြင့် ညတာအားကုန်ဆုံးစေခဲ့သည်။ နံနက် မိုးသောက်လင်းသောအခါ ချစ်နဗီထံတော်ပါးတွင် အခစားဝင်ရာ နဗီတမန်တော်မြတ် မိန့်တော်မူသည်.... မြင့်မြတ်တော်မူသော အရှင် မြတ်သည် အသင်တို့ဇနီးမောင်နှံနှစ်ဦး၏ ညက ပြုမူချက်အား သဘော ကျတော်မူခဲ့ပြီး [الحشر: ٩] وَيُؤْثِرُونَ عَلَىٰٓ أَنفُسِهِمْ وَلَوْ كَانَ بِهِمْ خَصَاصَةٌ"ထိုမှတပါး ၎င်းတို့သည် မိမိတို့ငတ်မွတ်နေသော်လည်း (ထိုမုဟာဂျစ်ရ်တို့အား) မိမိတို့ထက်ဦးစားပေးကြကုန်၏။" ဟူသော အာယသ်တော်ကို ချပေး သနားတော်မူခဲ့သည်။” ဟု မိန့်ကြားလိုက်သည်။

ဤအရာသည် ဆွဟာဗာသာဝကကြီးများ၏ ဦးစားပေးမှု၏ပြယုဂ် တစ်ခုပင်ဖြစ်သည်။ မိမိတို့ငတ်မွတ်မည်ကိုမစိုးရိမ်ဘဲ ဧည့်သည်ငတ် မွတ်မည်ကိုစိုးရိမ်ကြပေသည်။

ဤသည် အစ္စလာမ့်တရားတော်မြတ်၏ ကိုယ်ကျင့်တရား စာရိတ္တ မွန်များဖြစ်သည်။ ဆွဟာဗာသာဝကကြီးများသည် ထိုစာရိတ္တမွန်များကို မိမိတို့ဘဝတွင် ဆင်ယဉ်ချယ်သကာ ကမ္ဘာကြီးအားဦးဆောင်ခဲ့သည်။ လောကကြီးသည် ၎င်းတို့ခြေဖဝါးအောက်တွင် ရောက်ရှိခဲ့ရသည်။ တစ်ချိန်က ကုလားအုတ်ထိန်းကျောင်းသူများသည် တနေ့ကမ္ဘာကြီးကို ထိန်းကျောင်းပြုပြင်သည့် ဂုဏ်ပုဒ်အားရရှိခဲ့သည်။ လောကကြီးသည်

၎င်းတို့၏ မြင့်မားလှသော ကိုယ်ကျင့်တရားများနှင့် မွန်ရည်လှသော စာရိတ္တများအား မျက်ဝါးထင်ထင်တွေ့မြင်ခဲ့သည်။

ယနေ့ခေတ်တွင်လည်း ထိုအစ္စလာမ့်ကိုယ်ကျင့်တရား စာရိတ္တမွန်များ၊ အရည်အချင်းကောင်းများကို မိမိတို့ဘဝတွင် ပြန်လည်မွေးမြူရန်အရေးကြီးလိုအပ်နေပါသည်။ မျက်မှောက်ခေတ်ရှိ မွတ်စ်လင်မ်အပေါင်းတို့၏ တိုးတက်မှုနှင့် အောင်မြင်မှု၏လျှို့ဝှက်ချက်သည်နှစ်ပေါင်း (၁၄၀၀) ကျော်လွန်နေပြီဖြစ်သည့် အစ္စလာမ့်စနစ်အား မိမိတို့အတွင်း ဆောင်ကျဉ်းမှုတွင်သာ တိမ်မြုတ်နေကြောင်း ကောင်းစွာ မှတ်သားထားသင့်ပေသည်။



## (၁၄) မြင့်မားတည်ကြည် အစ္စလာမ့်ဂုဏ်ရည်

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «مِنْ حُسْنِ إِسْلَامِ الْمَرْءِ تَرْكُهُ مَا لَا يَعْنِيْهِ».

(رواه الترمذي في سننه "أبواب الزهد عن رسول الله صلى الله عليه وسلم").

" အကျိုးမဲ့အချည်းအနှီးဖြစ်သော အရာများအား စွန့်လွှတ်ခြင်းသည် လူသား၏မွန်ရည်သော အစ္စလာမ့်ဂုဏ်ရည်ပင်ဖြစ်ပေသည်။"

**ရှင်းလင်းချက်**

ဘဝသက်တမ်း၏ ရှုထောင့်အဖုံဖုံအား ခြုံငုံပါဝင်စေသည့် သဘာဝ တရားသည် အစ္စလာမ်သာသနာတော်တစ်ပါးတည်း၏ ထူးခြားသော ဂုဏ်ရည်ဖြစ်သည်။ မွတ်စ်လင်မ်တစ်ဦး၏ ဘဝသက်တမ်းတစ်ခုလုံး တွင် အလဟဿအချည်းအနှီးဖြစ်စေမည့်အရာ စိုးစဉ်းမျှပင်မရှိချေ။ ယုတ်စွအဆုံး ၎င်း၏ စိတ်ပြေလက်ပျောက် သဘောဖြင့် ပြုမူဆောင် ရွက်သော ဆောင်ရွက်ချက်များသည်ပင်လျှင် တရားတော်၏ဘောင် မကျော်လွန်ဘဲ နီယသ်အားရှေ့ရှုလိုက်ပါက အေဗာဒသ်ဖြစ်သွားသည်။ အီမာန့်ရှင်တစ်ဦးအဖို့ မိမိအား အရှင်သခင်ကလက်ဆောင်အဖြစ် ချီးမြှင့်ထားသည့် တန်ဖိုးရှိလှသော အချိန်ကာလများကိုအလဟဿ အချည်းအနှီးကိစ္စရပ်များတွင်မဖြုန်းတီးသင့်ပေ။ ထိုအချိန်များနှင့်ပတ် သက်၍ မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကေယာမသ် ကမ္ဘာ့ တရားခွင်နေ့တွင်စစ်ကြောမေးမြန်းတော်မူမည်ဖြစ်သည်။

သစ်ရ်မေ့ဇီကျမ်း၏ ဆင့်ပြန်ချက်တစ်ရပ်တွင်လာရှိသည်မှာ... လူသားသည် ဟရှရ်ကွင်းပြင်တွင် ငါးခုသောအရာနှင့်ပတ်သက်၍ စစ်ကြောမေးမြန်းခြင်း မခံရသေးသ၍ တုတ်တုတ်ပင် လှုပ်နိုင်မည် မဟုတ်ပေ။ သက်တမ်းအား မည်သည့်နေရာတွင် အသုံးချခဲ့သည်။ နုပျို သောကာလအား မည်သို့ကုန်ဆုံးခဲ့သည်၊ ဥစ္စာဓနအား မည်သို့ရှာဖွေခဲ့ ပြီး မည်သည့်နေရာတွင် အသုံးချခဲ့သည်၊ မိမိအသိပညာအပေါ် မည်မျှ အမလ်ပြုကျင့်ခဲ့သည်တို့ပင် ဖြစ်ပေသည်။

ဤဟဒီးဆ်တော်မြတ်မှ အခြားတစ်ခုအား ထပ်မံသိရှိရသည်မှာ - အီမာန်ရှင်တိုင်း၏ ဘဝသက်တမ်းရှိ စက္ကန့်တိုင်းသည် အရှင်မြတ်၏ အပ်နှံပစ္စည်းပင်ဖြစ်ပေသည်။ ထိုအချိန်တို့အား အလဟဿအချီးအနှီး ကိစ္စရပ်များတွင် ဖြုန်းတီးလိုက်ခြင်းသည် အီမာန်၏တောင်းဆိုချက် များနှင့် ဆန့်ကျင်၍နေပေသည်။ ထိုအချက်နှင့်ပတ်သက်၍ ပြစ်ဒဏ် ပေးခြင်းပင်ခံရနိုင်သည်။

အချုပ်ဆိုရသော် အီမာန်ရှင်တို့၏ဘဝတစ်ခုလုံးသည် မိမိအတွက် နှင့်အခြားသူများအတွက်ပါ နှစ်ဘဝအကျိုးမျှော်ကိုးနိုင်မည့် အကြောင်း ခံတစ်ရပ်ဖြစ်ပေသည်။

وفقنا الله لذلك

○○○

## (၁၅) ချိုမြိန်သော စကားဆိုခြင်းသည်ပင် အလှူဒါန

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«اَلْكَلِمَةُ الطَّيِّبَةُ صَدَقَةٌ».

(رواه البخاري في كتاب الجهاد، ''باب من أخذ الركاب''.ومسلم في كتاب الزكاة، ''باب بيان أن اسم الصدقة يقع على كل نوع من المعروف'').

"မွန်မြတ်သော စကားဆိုခြင်းသည်ပင် အလှူဒါနဖြစ်သည်။"

### ရှင်းလင်းချက်

ချိုမြိန်သောစကားနှင့် ခါးသီးသောစကားဆိုခြင်းတို့သည် လူသားတို့နှင့် အများဆုံးပတ်သက်ပြီး စူးရှမှုအရှိဆုံးနှင့် ရလဒ်ကောင်းများ၊ ရလဒ်ဆိုးများအား ဖန်တီးပေးလေ့ရှိသည်။ ထို့ကြောင့် ကိုယ်တော်မြတ် (ﷺ) သည် မိမိ၏အွမ္မသ်အား ချိုမြိန်သောစကားများ ပြောဆိုရန်နှင့် ကြမ်းတမ်းခါးသီးသော စကားများမဆိုရန် လေးနက်စွာမှာတမ်းခဲ့ပေသည်။

အချို့သော အချိန်အခါများတွင် လူသားသည် စကားတစ်ခွန်းကြောင့် အဆင့်မြင့်မြင့်သို့ရောက်ရှိသွားပြီး၊တစ်ခါတရံ မပြောပလောက်သည့် စကားတစ်ခွန်းကြောင့် နိမ့်သောအဆင့်အတန်းသို့ရောက်ရှိသွားတတ်သည်။ ထို့ကြောင့် နှုတ်လျှာအားထိန်းသိမ်းပြီး စကားများအား သူ့နေရာနှင့်သူ ပြောဆိုရန်မှာ လွန်စွာအရေးပါလှသည်။

တစ်ဦးတစ်ယောက်နှင့် ကောင်းသောစကားအား နူးညံ့သိမ်မွေ့သော လေသံဖြင့်ပြောဆိုလိုက်ခြင်းသည် ယင်း၏စိတ် ရွှင်ပျော်ဖွယ်

ကိစ္စတစ်ခု အသွင်ဆောင်သွားတတ်သည်။ မုချကောန်အရှင်မြတ်၏ ကျေးကျွန်တစ်ယောက်အား ပျော်ရွှင်စေခြင်းသည်ပင်လျှင် ကြီးမားလှသော ကောင်းမှုတစ်ရပ်ဖြစ်သည်။ လမ်းပျောက်နေသူအား လမ်းမှန်ပြခြင်း၊ တစ်ဦးတစ်ယောက်အား သင့်တော်သည့် အကြံပေးခြင်း၊ မသိသူများအား အရေးကြီးသော အသိပညာများ မျှဝေပေးခြင်း၊ မသင့်မြတ်သူနှစ်ဦးအကြား ဖြန်ဖြေပေးခြင်း၊ အချုပ်ဆိုရသော် နှုတ်လျှာမှ ကောင်းသောစကားများအား ပြောဆိုလိုက်ခြင်းတို့သည် ကောင်းသောစကားဆိုခြင်း၏ ခေါင်းစဉ်အောက်တွင်ပါဝင်ပေသည်။ ဤသည် ကောင်းကျိုးရှာဖွေရန် အလွယ်ကူဆုံးသော နည်းလမ်းဖြစ်သည်။ မှန်ကန်သောရည်းစူးချက်နှင့် အာရုံပြုခြင်းတို့သာ လိုအပ်ပေသည်။

အခြားတစ်ဖက်တွင် ချစ်နဗီ (ﷺ) သည် နှုတ်လျှာအားထိန်းသိမ်းရန်လေးနက်စွာမှာတမ်းပေးခဲ့သည်။ နှုတ်လျှာမှ အဖျက်လုပ်ငန်းများကို ဆောင်ကျဉ်းလာမည့် မည်သည့်စကားမျှ မထုတ်မိစေရန် သတိချပ်ရမည်။ ထို့အတူ အလ္လာဟ့်အချစ်တော် တစ်ဦးဦးအား စိတ်ထိခိုက်စေမည့်စကားဆိုခြင်းမှလည်း ရှောင်ကျဉ်ရမည်။

မြင့်မြတ်တော်မူသောအရှင်မြတ် ကျွန်ုပ်တို့အားလုံးအား မိမိတို့၏ နှုတ်လျှာကို မှန်ကန်သောနေရာများတွင် အသုံးချနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပြီး နှုတ်လျှာအား သေချာစွာ ထိန်းသိမ်းနိုင်စွမ်း ပေးသနားတော်မူပါ။ အာမီးန်

○○○

## (၁၆) မွန်ရည်သော စာရိတ္တများ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«أَكْمَلُ الْمُؤْمِنِيْنَ إِيْمَانًا أَحْسَنُهُمْ خُلُقًا».

(رواه الترمذي في أبواب الرضاع، "باب ما جاء في حق المرأة على زوجها").

"မုအ်မင်န်တို့အနက် အီမာန်အပြည့်ဝဆုံးသောသူသည် ကိုယ်ကျင့်တရား အကောင်းဆုံးသောသူ ဖြစ်သည်။"

### ရှင်းလင်းချက်

သန့်ပြန့်စင်ကြယ်သော ကိုယ်ကျင့်တရားများသည် အီမာန်၏ အနှစ်သာရများအနက်မှ ကြီးကျယ်သော အနှစ်သာရများဖြစ်သည်။ ကိုယ်တော်မြတ် (ﷺ) ကိုယ်တော်တိုင် ကောင်းမွန်သောကိုယ်ကျင့် တရားကဏ္ဍအား ပြီးပြည့်စုံစေရန် ကြွမြန်းလာကြောင်း အောက်ပါအတိုင်း မိန့်ခြွေတော်မူခဲ့သည်။

"بعثت لأتمم مكارم الأخلاق" ((ငါကိုယ်တော်မြတ် (ﷺ)သည် မွန်မြတ်သောကိုယ်ကျင့်တရားများအား ပြီးပြည့်စုံစေရန် စေလွှတ်တော်မူခြင်း ခံခဲ့ရသည်။))

အဘယ်ကြောင့်မဟုတ်ရမည်နည်း၊ ကိုယ်ကျင့် တရားဟူသည် လူသား၏ဘဝတွင် အလွန်ပင်အရေးပါအရာရောက်လှသည်။ အကယ်၍ လူသားတစ်ဦး၏ ကိုယ်ကျင့်တရားများသည် ကောင်းမွန်ပါက ၎င်း၏ဘဝသည်လည်း အလွန်သာယာချမ်းမြေ့စွာ ကုန်ဆုံးသွားသည်။ အခြားသူများအတွက်လည်း ၎င်း၏ရှင်သန်နေထိုင်ခြင်းသည် ကရုဏာ

သက်ရန်အကြောင်းခံတစ်ခုဖြစ်သွားမည်။ အကယ်၍လူသား၏ ကိုယ်ကျင့်တရားများသည် ဆိုးရွားနေပါမူ ထိုသူကိုယ်တိုင်လည်း ဘဝ သက်တမ်း၏ ပျော်ရွှင်ကြည်နူးဖွယ်ရာ ပုံရိပ်များမှလက်မဲ့ဖြစ်ရပြီး ယင်းနှင့်ပတ်သက်ရသည့် လူသားတိုင်း၏ ဘဝတို့သည်လည်း အရသာမရှိဘဲ ခါးသီးသွားပေမည်။ ဤသည် လက်တွေ့လောကတွင် ကြုံဆုံရမည့် ရလဒ်တစ်ခုဖြစ်သည်။ ကွယ်လွန်ပြီးသည့်နောက် အဆုံးမဲ့ဘဝလမ်းခရီးတွင် ကောင်းသောကိုယ်ကျင့်တရားများ၏ ရလဒ်သည် မြင့်မြတ်တော်မူသော အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုများကွန့်မြူးနေသည့် ဂျန္နသ်သုခဘုံဖြစ်ပြီး မကောင်းသောကိုယ်ကျင့်တရားများ၏ ရလဒ်သည် အရှင်မြတ်၏ အမျက်ဒေါသထိရှသည့် ဂျဟန္နမ်ငရဲဘုံသာဖြစ်ပေသည်။

ကောင်းမွန်သော ကိုယ်ကျင့်တရားများသည် အီမာန်နှင့်မခွဲဘဲ အမြဲတွဲနေသော အစိတ်အပိုင်းတစ်ခုဖြစ်သည်။ အီမာန်ပြည့်ဝသူ၏ ကိုယ်ကျင့်တရားများသည် မုချမွန်မြတ်မည်။ အီမာန်မရှိလျှင်ကိုယ်ကျင့်တရားများသည် ဝိဉာဉ်ကင်းမဲ့နေမည်သာဖြစ်သည်။ ယင်းကိုယ်ကျင့်တရားများ၏ အခြေအမြစ်လည်းရှိမည်မဟုတ်။ အရှင်မြတ်ထံတော်ပါးတွင်လည်း ယင်းကိုယ်ကျင့်တရားများ၏ တန်ဖိုးရှိမည်မဟုတ်ချေ။ အကယ်၍ အီမာန်နှင့်အတူ ကောင်းသောကိုယ်ကျင့်တရားများ ပူးတွဲနေမည်ဆိုပါက မုချထိုကိုယ်ကျင့်တရားတို့၏ အဆင့်အတန်းများသည် မြင့်မားနေမည်ဖြစ်သည်။ ထို့အတူလူသားထုတစ်ရပ်လုံး မွန်မြတ်အောင်မြင်စေရန် တန်ဖိုးမဖြတ်နိုင်သည့် ရတနာတစ်ပါးလည်းဖြစ်

သွားမည်။ ကောင်းမွန်သော ကိုယ်ကျင့်တရားများကြောင့် လူသားသည် တစ်ခါတရံ ကြီးမားသော အဗောဒသ်များဖြင့် မရရှိနိုင်သော အရှင်မြတ်နှင့်နီးကပ်မှု မျိုးအား ရရှိသွားတတ်သည်။

အရှင်မြတ် ကျွန်ုပ်တို့အားလုံးအား ကောင်းသောကိုယ်ကျင့်တရားများဖြင့် ဆင်ယဉ်ချယ်သပေးသနားတော်မူပါစေ။



## (၁၇) အရှင်မြတ်လမ်းတော်တွင် ထွက်ခြင်း၏ အကျိုးကျေးဇူး

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«لَرَوْحَةٌ فِيْ سَبِيْلِ اللَّهِ، أَوْ غَدْوَةٌ، خَيْرٌ مِنَ الدُّنْيَا وَمَا فِيْهَا».

(رواه الترمذي في كتاب الإمارة، "باب فضل الغدوة والروحة").

"အရှင်မြတ်လမ်းတော်တွင် တစ်မနက်(သို့) တစ်ညနေထွက်ခြင်းသည် ဒွန္နယာနှင့်ဒွန္နယအတွင်းရှိ အရာများထက် သာမြတ်သည်။"

**ရှင်းလင်းချက်**

နဗီတမန်တော်များအား စေလွှတ်ရခြင်း၏ အဓိက အကြောင်းခံမှာ အရှင်မြတ်၏ ကျေးကျွန်များကို ဖြောင့်မတ်မှန်ကန်သောလမ်း ပြသရန်ဖြစ်သည်။ အရှင်မြတ်၏ကလိမာဟ်တော် မြင့်မားစေရေးအတွက် အရှင့်လမ်းတွင်ထွက်ခြင်း၊ သာသနာတော်အားအကျိုးပြုရန်၊ သာသနာတော်အား သင်ပေးသင်ယူပြုရန်၊ ယင်းအားပို့ချရန်အချိန်ထုတ်ခြင်း၊ မိမိ၏အိမ်ယာများအား စွန့်ခွာခြင်းတို့သည် အရှင်မြတ်ထံတော်ပါးတွင် လူသားတစ်ဦး၏ လက်ခံခြင်းခံထိုက်သော လုပ်ရပ်များမှဖြစ်သည်။ ထိုလမ်းတွင် မိမိ၏အသက်စည်းစိမ်တို့အား စတေးခြင်း၊ တခြားသူများဘက်မှ ထိုးနှက်လာသော ခါးသီးသည့်စကားများနားထောင်ခြင်း၊ ချွေးသွေးများမြေခစေခြင်း၊ မိမိ၏သိက္ခာအား ပဓါနမထားပဲ ကြုံဆုံရသမျှ ဒုက္ခတို့အား ခါးစည်းခံခြင်းတို့သည် နဗီတမန်တော်အပေါင်း၏လမ်းစဉ် အထူးသဖြင့် ကျွန်ုပ်တို့၏ နှစ်ဘဝခေါင်းဆောင်၊ ကမ္ဘာကြီး၏လမ်းပြ နဗီ (ﷺ) ၏လမ်းစဉ်ဖြစ်သည်။

ထို့နောက် အမွန်မြတ်ဆုံး လုပ်ရပ်များတွင်လည်း ပါဝင်ပေသည်။ ပမာဆိုရသော် ဖော်ပြပါဟာဒီးဆ်တော်မြတ်တွင်လည်း အလ္လာဟ့်လမ်းတော်တွင် တစ်မနက်(သို့)တစ်ညနေထွက်ခြင်းသည် ဒွန္နယာနှင့်ဒွန္နယာအတွင်းရှိ အရာများထက် သာမြတ်ကြောင်းလာရှိထားပေသည်။

ဆွဟာဗာသာဝကကြီးများ၏ ဘဝသက်တမ်းသည် ဖော်ပြပါဟာဒီးဆ်တော်မြတ်၏ လက်တွေ့ကျသည့် နမူနာကောင်းတစ်ခုဖြစ်သည်။ ၎င်းတို့ဘဝ၏စက္ကန့်တိုင်းသည် အရှင်မြတ်လမ်းတွင်သာ ကုန်ဆုံးနေသည်။ ၎င်းတို့သည် အလ္လာဟ့်ရစူလ်၏အမိန့်တော်ပေါ်၊ ၎င်းနောက် သာသနာတော်မြတ်၏ တောင်းဆိုချက်များအပေါ် မိမိကိုယ်မိမိ စတေးရန်အသင့်ဖြစ်ကြသည်။ ယခုဆက်လက်၍ အလ္လာဟ့်လမ်းတော်တွင် စတေးခြင်းသည် အွမ္မသ်သားများဖြင့်သာ ရှင်သန်နေမည်။ မည်သူမဆို ဤမွန်မြတ်လှသည့် ကြိုးပမ်းမှုတွင်ပါဝင်နေပါမူ ယင်းသည်မိမိအတွက် အောင်မြင်မှု၏လမ်းစကို တွေ့ရှိမည်ဖြစ်ပြီး အရှင်မြတ်ထံတော်ပါးတွင် သီးသန့်နီးကပ်မှုအား ရရှိဦးမည်ဖြစ်သည်။

မည်သို့မည်ပုံအွမ္မသ်ထိ ဤသာသနာရောက်ရန်၊ မည်သည့်နည်းဖြင့် အွမ္မသ်ထုတစ်ရပ်လုံး ရှရီအသ်တရားတော်မြတ်၏ ပုံစံခွက်ထဲ သွန်းလောင်းရမည်ကို အချိန်တိုင်း တွေးတောပြီး ယင်းအား အကောင်အထည်ဖော်ရန် အပတ်တကုတ်ကြိုးပမ်းနေသူများသည် အလွန်ပင်မင်္ဂလာရှိလှပေသည်။ ၎င်းတို့၏ အရည်အချင်းအားလုံးသည်လည်း ဤကိစ္စရပ်အတွက် အသုံးဝင်နေမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ် ယင်းပုဂ္ဂိုလ်မွန်များအား အွမ္မသ်ဘက်မှ ကောင်းသော အစားချီးမြှင့်ပေးသနားတော်မူပြီး ကျွန်ုပ်တို့အားလုံးကိုလည်း ယင်းတို့၏နောက်လိုက်ခွင့်ချီးမြှင့်ပေးသနားတော်မူပါ။



## (၁၈) အလ္လာဟ့်လမ်းတော်တွင် ထွက်ခြင်း၏အစား

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«لَا يَجْتَمِعُ غُبَارٌ فِيْ سَبِيْلِ اللَّهِ وَدُخَانُ جَهَنَّمَ».

(رواه الترمذي في فضائل الجهاد، "باب ماجاء لا يجتمع غبار في سبيل الله ودخان جهنم").

"အလ္လာဟ့်လမ်းတော်တွင် လူးထိသောဖုံမှုန့်နှင့် ဂျဟန္နမ်ငရဲမီးသည် တစ်နေရာတည်းတွင် မဆုံစည်းနိုင်ပေ။"

### ရှင်းလင်းချက်

ဤဟဒီးဆ်တော်မြတ်တွင် အလ္လာဟ့်လမ်းထွက်ချိန် လူးထိသော မြေမှုံပင်လျှင် (ဂျဟန္နမ်) ငရဲဘုံမှလွတ်မြောက်စေရန် အကြောင်းခံဖြစ်ကြောင်း ရှင်းလင်းစွာမိန့်ကြားထားပေသည်။ အကယ်၍ ထိုထက်ပိုပြီး ကြီးမားသည့်ဒုက္ခများ၊ မြေမှုံနေရာတွင် သွေးချွေးများမြေခပါက ပိုမို အဆင့်အတန်းမြင့်မားမည်မှာ ဧကန်မုချပင်။ အခြားဟဒီးဆ်တော် တစ်ပုဒ်တွင် ရှဟီဒီတစ်ဦးအား အရှင့်ထံသွေးစက်လက်ဖြင့် ပြန်လည် ခေါ်ယူခြင်းခံရမည်။ အရောင်မှာ သွေးရောင်ဖြစ်သော်လည်း အနံ့မှာ ကံတိုးနံ့ဖြစ်မည်။" ဟူ၍ တင်စား မိန့်ဆိုထားသည်။

ထို့အပြင် အရှင့်လမ်းတော်တွင်ထွက်ခြင်း၏ အခြားသော ကတိတော်များလည်း လာရှိထားပေသည်။ ထိုကတိတော်များအရ မည်သည့်လမ်း၌မဆို စစ်မှန်သည့်ရည်စူးချက်ဖြင့် သာသနာ့အကျိုး သယ်ပိုးသူများအတွက် သတင်းကောင်းများရှိကြောင်း သိရှိရပေသည်။

ooo

## (၁၉) သတ္တလောက၏ ဓမ္မစစ်သဘောတရား

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«اَلدُّنْيَا سِجْنُ الْمُؤْمِنِ وَجَنَّةُ الْكَافِرِ».
(رواه مسلم في كتاب الزهد والرقاق).

"လောကကြီးသည် အီမာန်ရှင်အဖို့ အချုပ်ခန်းသဖွယ်ဖြစ်ပြီး ကာဖိရ်အဖို့ စည်းစိမ်ယစ်မူးရာဌာနဖြစ်သည်။ "

**ရှင်းလင်းချက်**

လူသားများအား တရားလမ်းမှန်ရရှိစေရန်၊ အဆုံးမဲ့ တမလွန်ခရီးတွင် အောင်မြင်မှု၏ပန်းတိုင်အား လမ်းကိုင်နိုင်ရန် ညွှန်ကြားပေးသည့် အချက်အများအနက်မှတစ်ခုမှာ လူသားသည် လောကအားသေးသိမ်ပြီး တန်ဖိုးမဲ့သောအရာဟုမှတ်ယူကာ စိတ်မဝင်စားရန်ဖြစ်သည်။

သို့သာမက နောင်တမလွန်သာ မိမိ၏ပန်းတိုင်ဟု မှတ်ယူထားရမည်။ ဒွန္နယာလောကနှင့် ယှဉ်လာလျှင် အာခေရသ်တမလွန်ဘဝအား ပိုမိုအလေးထား၊ တန်ဖိုးထားပြီး အချိန်တိုင်းတွင် ယင်းတမလွန်ခရီးနှင့် ပတ်သက်ပြီး ဒွန္နယာလောကထက် ပိုမို၍ သောကထားနေရမည်။ နှလုံးသား၏ ဦးတည်ရာသည် အမြဲအာခေရသ်သာဖြစ်ရမည်။ ထို့ကြောင့် "ဤလောကသည် အီမာန်ရှင်အဖို့ အချုပ်ခန်းသဖွယ်ဖြစ်သည်" ဟု မိန့်ဆိုထားခြင်းဖြစ်သည်။ ချုပ်နှောင်ခံရသူ၏ဘဝတွင် လွပ်လပ်မှုဟူ၍ မရှိပေ။ သို့သာမက အခြားသူများ၏ ထားရာနေ စေရာသွားဘဝ ဖြင့်သာနေထိုင်ရသည်။ ရသမျှစား၊ ရသည့်နေရာတွင်ထိုင်၊ မိမိစိတ်

အလိုကျ မည်သည့်အရာကိုမျှ လုပ်ပိုင်ခွင့်မရှိပေ။ သို့သာမက စိတ်ပါသည်ဖြစ်စေ မပါသည်ဖြစ်စေ အခြားသူများ၏ မိန့်မှာချက်အတိုင်း လျှောက်လှမ်းရပေသည်။ အချုပ်ခန်း၏ ဒုတိယထူးခြားချက်တစ်ခုမှာ အချုပ်သားသည် အချုပ်ခန်းအား မည်သည့်မခါမျှမတွယ်တာ။ ယင်းအချုပ်ခန်းအား မိမိ၏အိမ်အဖြစ်လည်းမမှတ်ယူပေ။ သို့သာမက အချိန်တိုင်း ယင်းအခန်းမှ ထွက်မြောက်လွတ်ကင်းရန်သာ မျှော်လင့်တောင်းတနေသည်။

ဤအချက်နှင့် ဆန့်ကျင်ဘက်ဖြစ်သည့် စည်းစိမ်ယစ်မူးရာဌာန၏ ထူးခြားချက်မှာ ထိုနေရာတွင် မည်သည့်အချုပ်အနှောင်မှမရှိ၊ မိမိစိတ်အလိုကျ ရှင်သန်နေထိုင်ခွင့်ရှိပြီး လိုတရ ဘ၀ဖြစ်သည်။

ဤဟဒီးတော်မြတ်တွင် အီမာန်ရှင်များအတွက် သင်ခန်းစာမှာ ဒွန္နယာလောကတွင် ဥပဒေအမိန့်ထုတ်ပြန်မှုများနှင့်ပြည့်နက်နေသော အချုပ်ခန်း၌ နေထိုင်ကျင့်သုံးသကဲ့သို့ ဘ၀ကုန်ဆုံးရမည်။ ထိုလောကအား မခင်တွယ်ရပေ။ အကယ်၍ ဤအတိုင်းသာ နေထိုင်နိုင်မည်ဆိုပါက ထိုလူသားသည် ပြည့်၀သောအီမာန်ရှင်ဖြစ်သွားပေမည်။ အကယ်၍ လောကအား ခင်တွယ်သွားပြီး အဓိကအရာဟုသတ်မှတ်လိုက်လျှင် ထိုသူသည် ကာဖိရ်များနည်းတူ ကျင့်သုံးသူဟူ၍ ဟဒီးဆ်တော်မြတ်က ထောက်ပြနေပေသည်။

အခြားဟဒီးဆ်တစ်ပုဒ်တွင် ကိုယ်တော်မြတ်(ﷺ)မိန့်တော်မူသည်။ အလ္လာဟ့်ထံတော်ပါးတွင် လောကကြီးသည် ယင်ကောင်တစ်ကောင်၏

တောင်ပံတစ်ဖက်မျှပင် တန်ဖိုးရှိမှု အရှင်မြတ်သည် မည်သည့်ကာဖိရ် ကိုမျှ ရေတစ်ပေါက်ပင်တိုက်ကျွေးမည်မဟုတ်ပေ။ အာယသ်တော်တစ် ခုတွင်လည်း အရှင်မြတ်ကိုယ်တော်တိုင် မိန့်ထားသည်မှာ "အို-နဗီ တမန်တော်.... အမြို့မြို့အရွာရွာတွင် (လောကီစည်းစိမ်များဖြင့် ပြည့် ပြည့်စုံစုံ ချမ်းသာစွာဖြင့်) ကာဖိရ်တို့၏သွားလာခြင်းသည် အသင့်အား အထင်မှားအမြင်မှား မဖြစ်စေနှင့်။ အမှန်စင်စစ်သော်ကား ယင်းသွား လာမှုနှင့် စည်းစိမ်ချမ်းသာများသည်) တခဏမျှသော အကျိုး ခံစားမှုမျှ သာဖြစ်သည်။ နောက်ဆုံးတွင်မူကား ထိုသူတို့၏ပြန်လှည့်ရာဌာနသည် "ဂျဟန္နမ်"ငရဲဘုံသာလျှင်ဖြစ်ချေမည်။ စင်စစ် ယင်းဂျဟန္နမ် ငရဲဘုံ သည် အလွန်တရာ ဆိုးဝါးလှသော နေရာပင်ဖြစ်ပေသည်။"

📖 (၃:၁၉၆-၁၉၇)

ယနေ့ခေတ်ကဲ့သို့ ရုပ်ဝါဒမင်းမူသည့်ခေတ်တွင် အီမာန်ရှင်များ၏ တာဝန်သည် ပိုမိုများပြားလာပေသည်။ ၎င်းတို့သည် ကိုယ်တိုင်လည်း တရားရကြပြီး အခြားသူများကိုလည်း တရားပြနိုင်ရပေမည်။

❍❍❍

## (၂၀) စမ်းသပ်ခန်းဖြစ်သော လောက

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«حُفَّتِ النَّارُ بِالشَّهَوَاتِ، وَحُفَّتِ الْجَنَّةُ بِالْمَكَارِهِ».

(رواه البخاري في كتاب الرقاق، ومسلم في كتاب الجنة ونعمها).

" ဂျဟန္နမ်ငရဲဘုံအား ရမ္မက်များဖြင့် ဂျန္နသ်သုခဘုံအား မနှစ်မြို့ဖွယ်ရာများဖြင့် ကာရံထားပေသည်။"

### ရှင်းလင်းချက်

သစ်ရ်မေ့ဇီကျမ်း၏ ဆင့်ပြန်ချက်တစ်ရပ်တွင် လာရှိသည်မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ဂျန္နသ်သုခဘုံအား ဖန်ဆင်းပြီးနောက် ဟဇရသ်ဂျစ်ဗ်ရအီးလ် (ﷺ) ကို ဂျန္နသ်အား ရှုစားရန် စေလွှတ်ခဲ့သည်။ ရှုစားပြီးနောက် ၎င်းကအရှင်မြတ်ထံတော်ပါးတွင် လျှောက်ထားသည်မှာ... အရှင့်သိက္ခာတော်မြတ်၏ကစမ် မည်သူမဆို ဂျန္နသ်နှင့်ပတ်သက်ပြီး ကြားရပါမူ ထိုသူသည် ဂျန္နသ်သုခဘုံတွင် မုချဝင်ရောက်ရလိမ့်မည်။ ထို့နောက် မြင့်မြတ်တော်မူသော အရှင်မြတ်သည်ဂျန္နသ်သုခဘုံအား မနှစ်မြို့ဖွယ်ရာများဖြင့် ကာရံလိုက်ရာ ဟဇရသ်ဂျစ်ဗ်ရအီးလ် (ﷺ)က ယခုကျွန်တော်မျိုးသည် မည်သူမှ ဂျန္နသ်သို့ ဝင်ရောက်ရမည်မဟုတ်ဟု စိုးရိမ်မိသည်။ ထို့နောက် ၎င်းကို ဂျဟန္နမ်အား ကြည့်ရှုရန် ထပ်မံစေလွှတ်ခဲ့ရာ ကြည့်ရှုပြီး လျှောက်ထားသည်မှာ ဂျဟန္နမ်အားမြင်ပြီးသူတိုင်း ယင်းအတွင်း ဝင်ကြမည်မဟုတ်ပေ။ ထိုအခါအရှင်မြတ်က ဂျဟန္နမ်အားအလို ရမ္မက်များဖြင့် ဝန်းရံလိုက်သောအခါ ဂျစ်ဗ်ရအီးလ် ကောင်းကင်တမန်တော်က ယခုယင်း ဂျဟန္နမ်မှ လွတ်မြောက်ရန်မှာခဲယင်းလှပေသည်။ဟု ပြောခဲ့သည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ဒွန္နယာလောက အား စမ်းသပ်ခန်းအဖြစ် ပြုလုပ်ထားတော်မူသည်။ ထိုလောကအား အလိုရမ္မက်များ၊ ဆေးဆိုးပန်းရိုက်များဖြင့် ချယ်သထားပေသည်။ လူသားသည် ထိုလောက၏ စည်းစိမ်အတုအပများတွင် ဤသို့ရစ်မူးပြီး မိမိဖန်ဆင်းရှင်အား မေ့လျော့ပစ်လိုက်သည်။ မိမိ၏ ပန်းတိုင်အား သတိပင်မရချေ။ ယင်း၏ ဆန့်ကျင်ဘက်တွင် လူသားသည် အီမာန်၏ လမ်းပေါ်တွင် လျှောက်လှမ်းခြင်း အီမာန်များကွန့်မြူးနေသော ဘဝ အားရွေးချယ်ရာတွင် ဒုက္ခသုက္ခများခံစားရသည်။ မိမိစိတ်နှင့်ဆန့် ကျင်ဘက်လုပ်ရသည်။ ဤသည်အကြီးမားဆုံး စမ်းသပ်ခံရခြင်းဖြစ် သည်။

ဖော်ပြပါဟာဒီးတော်မြတ်တွင် အကယ်၍လူသားသည် အသိနှင့် သတိတွဲညီထားသူဖြစ်မူ အမြဲတည်ရှိမည့်အာခေရသ်၏ စည်းစိမ်များ အား ရှေ့ရှုမည်ဖြစ်သည်။ ပျက်သုဉ်းမည့်လောကကို အာခေရသ်အ တွက် လယ်ယာသဖွယ်ပြုလုပ်မည်။ လောက၏ စိတ်လိုရမ္မက်များအား မတည်မြဲသည့်အရာများဟုယူဆမည်။ သို့သာမက ၎င်း၏မျက်စိရှေ့ တွင် ရည်ရွယ်ထားသည့်ပန်းတိုင်သာရှိမည်။ အမြဲတစေနေထိုင်ရမည့် အာခေရသ် တမလွန်ခရီးအကြောင်း စဉ်းစားရုံပင်မဟုတ်ဘဲ ယင်းအ တွက် ဤလောကတွင်ပင်အသင့်ပြင်မည်ဖြစ်သည်။ ထိုတမလွန်စခန်း အတွက် မိမိ၏အင်အားအလုံးစုံအား အသုံးချမည်ဖြစ်သည်။

အချုပ်မှာ ဒွန္နယာနှင့်အာခေရသ်၏ ဓမ္မစစ်သဘောတရားများအား ဂဃနဏ၊ ခရေစေ့တွင်းကျနားလည်သူ၏ အခြေအနေသည် ဖော်ပြသည့်အတိုင်းပင်ဖြစ်ချေမည်။ اللهم اجعلنا منهم



## (၂၁) သေခြင်းတရားအား သတိရခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «أَكْثِرُوا ذِكْرَ هَاذِمِ اللَّذَّاتِ» يَعْنِي اَلْمَوْتَ.

(رواه الترمذي في كتاب الزهد، باب ما جاء في ذكر الموت).

"အသင်တို့သည် အရသာများကို လျှင်မြန်စွာဖြတ်တောက်ပစ်သည့် သေခြင်းတရားအား များစွာသတိရကြလေကုန်။"

**ရှင်းလင်းချက်**

သေခြင်းတရားသည် လူသားအားကိုင်လှုပ်ရန် အထိရောက်ဆုံးသောအရာများဖြစ်သည်။ သေခြင်းတရားရှေ့မောက်သို့ ရောက်လာလျှင် ကြီးမားလှသော စည်းစိမ်သုခများပင်လျှင် ဒုက္ခအသွင်ပြောင်းသွားသည်။

တစ်ခါက ကိုယ်တော်မြတ် (ﷺ)သည် ဟက်ဟက်ပက်ပက်ဟားတိုက်ရယ်မောနေသော လူတစ်စုကိုတွေ့ပြီး အသင်တို့သည် သေခြင်းတရားအားများစွာ သတိရကြလေကုန်ဟု အမိန့်ရှိခဲ့သည်။ ထို့နောက် အမိန့်ရှိခဲ့သည်။ "ကဗရ်သည် နေ့စဉ်ဟာစ်ကြွေးသည်... ငါသည် လူသူကင်းမဲ့သော အိမ်ဖြစ်သည်။ ငါသည် မြေကြီးဖြင့်အတိပြီးသော ပိုးမွှားများ၏အိမ်ဖြစ်သည်။ ထို့နောက် စစ်မှန်သော မုအ်မင်န်ကျေးကျွန်တစ်ယောက်သည် မြေကြီးထဲသို့ မြှုပ်နှံခံရသောအခါ ကဗရ်သည် လှိုက်လှဲပျူငှာစွာကြိုဆိုပါ၏။ မိမိအိမ်တွင်လာခြင်းကောင်းပေသည် ဟုဆိုပြီး မျက်စိတစ်ဆုံး ကျယ်ဝန်းသွားပေသည်။ အကယ်၍ အလွန်ယုတ်ညံ့ပြီး

အီမာန်ရှင်မဟုတ်သောသူ ကဗရ်မြေကြီးတွင်းသို့ ချခြင်းခံရသောအခါ ထိုကဗရ်မြေကြီးသည် အဘက်ဘက်မှ ယင်းအား နံရိုးများ ယှက်သွားသည်ထိ ဖိညှပ်ပစ်လိုက်လေသည်။ ယင်းသူအပေါ် မြွေနဂါးပေါင်း (၇၀) ကျော်အား လွှမ်းမိုးစေလိုက်ရာ ထိုနဂါးများသည် ကေယာမသ်တိုင်ငင်းအားပေါက်နေမည်ဖြစ်သည်။ (အရှင်မြတ်ကျွန်ုပ်တို့အားလုံးကို ထိုအဖြစ်ဆိုးမှ ထိန်းသိမ်းတော်မူပါစေ။)

လူသားသည်မိမိ၏ အာခေရသ်ဆိုင်ရာနိဂုံးအား ဥပက္ခောပြုမထားသင့်ပေ။ သေခြင်းတရားနှင့် သေတွင်းဆင်းရမည့် အကြောင်းများအား သတိရပြီးအမြဲ မိမိအားကုသနေရမည်ဖြစ်သည်။ သေခြင်းတရားကို သတိရခြင်းသည် မိမိ(အကုသိုလ်) များအတွက် အထိရောက်ဆုံးသောကုထုံးဖြစ်သည်။ ဆွဟာဗာသာဝကကြီးများထားရှိနိုင်ခဲ့သော ရှောင်ကြဉ်ခြင်းတရား၊ အရှင်မြတ်အားကြောက်ရွံ့စိတ်၊ နောင်တမလွန်နှင့်ပတ်သက်ပြီး သောကထားခြင်းများသည်လည်း အထက်ဖော်ပြပါကုထုံးအတိုင်းချစ်နဗီ (ﷺ) ကုသခဲ့ခြင်း၏ရလဒ်ပင်ဖြစ်သည်။ ယနေ့လည်း ဤကုထုံးအတိုင်း ဘဝအားကုသနေသည့် အလ္လာဟ့်အချစ်တော်များတွင် ဖော်ပြပါဆွဟာဗာများ၏ အရည်အချင်းများကိုတွေ့မြင်ရပေသည်။

အလ္လာဟ်အရှင်မြတ်ကျွန်ုပ်တို့အားလုံးအား ပြေးရှောင်ပုန်း၍မရနိုင်သည့် သေခြင်းတရားကို အမြဲသတိရနိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။ သေခြင်းတရားတွင် သက်ကြီးရွယ်အို၊ အပျိုလူပျို၊ ကြီးသူ၊

ငယ်သူ၊ သူဌေး၊ သူဆင်းရဲဟူ၍ သက်မှတ်ချက်မရှိပေ။ အလှည့်ရောက်သူတိုင်းသည် အဆင်သင့်ဖြစ်နေရမည်။

အရှင်မြတ်နှင့်တွေ့ဆုံရန် အမြဲမျှော်လင့်နေနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။



## (၂၂) နိဖားက် - အရေခြုံအယောင်ဆောင်မွတ်စ်လင်မ်၏ လက္ခဏာများ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«آيَةُ الْمُنَافِقِ ثَلَاثٌ، إِذَا حَدَّثَ كَذَبَ، وَإِذَا وَعَدَ أَخْلَفَ، وَإِذَا اؤْتُمِنَ خَانَ».

(رواه البخاري في كتاب الإيمان، باب آية المنافق، ومسلم في كتاب الإيمان، باب بيان خصال المنافق).

မိုနာဖိက်(အယောင်ဆောင်မွတ်စ်လင်မ်)၏ စရိုက်(၃)ခုရှိပါသည်။

(၁) စကားပြောသောအခါ မုသားပြောခြင်း။

(၂) ကတိပေးသောအခါ ကတိဖျက်ခြင်း။

(၃) ယုံကြည်ပြီး အပ်နှံခံရသောအခါ အလွဲသုံးစားလုပ်ခြင်း။

### ရှင်းလင်းချက်

နဗီတမန်တော်မြတ်(ﷺ) များစွာသွန်သင်တိုက်တွန်းခဲ့ပြီး မုအ်မင်န်တို့အဖို့ မရှိမဖြစ်လိုအပ်သည့် အချို့သောစာရိတ္တမွန်များမှာ မှန်ကန်ခြင်း၊ ကတိတည်ကြည်ခြင်းနှင့် သစ္စာသမာဓိရှိခြင်းတို့သည် ထိပ်တန်းတွင်ပါဝင်သည်။ ယင်းတို့၏ ဆန့်ကျင်ဘက်တွင် လိမ်လည်ခြင်း၊ ကတိဖောက်ဖျက်ခြင်းနှင့် အလွဲသုံးစားပြုခြင်းတို့သည် အဆိုးဆုံးအကုသိုလ်များစာရင်းဝင်သည်။ သို့သာမက စိတ်ကောင်းနှလုံးကောင်းရှိသူတိုင်းသည်ပင် ထိုဆိုးယုတ်လှသည့် အကုသိုလ်များကို ရွံရှာကြသည်။

ဤဟဒီးဆ်တော်မြတ်တွင်လည်း ထိုအကျင့်ဆိုးများကို သာသနာ့အရေခြုံခြင်း၏ လက္ခဏာများဟုသတ်မှတ်ထားသည်။

မုနာဖိက် သာသနာ့အရေခြုံသူအစစ်ဆိုသည်မှာ နှစ်နှစ်ကာကာ အစွလာမ်လက်ခံမထားဘဲ ရည်ရွယ်ချက် အကျိုးတစ်ခုခုကြောင့်သာ မိမိကိုယ်ကို မွတ်စ်လင်မ် မုအ်မင်န်ဖြစ်ကြောင်း ထုတ်ဖော်ပြသသူကို ဆိုလိုသည်။

နိဖားက် (ခ) သာသနာအယောင်ဆောင်ခြင်းသည် အဆိုးရွားဆုံး သော ကုဖ်ရ် (အရှင်မြတ်အမိန့်ကို ဆန့်ကျင်ခြင်း) ဖြစ်သည်။ ထိုကဲ့သို့ သောသာသနာ့အရေခြုံ မုနာဖိက်များနှင့်ပတ်သက်၍ အရှင်မြတ်က ကျမ်းတော်မြတ်ကုရ်အာန်တွင် "မုချမုနာဖိက် (အယောင်ဆောင် မွတ်စ် လင်မ်)များသည် ဂျဟန္နမ်ငရဲဘုံ၏ အောက်ဆုံးအထပ်တွင် ရှိကြမည် ဖြစ်သည်။" ဟုမိန့်ဆိုထားပေသည်။

ထိုနည်းတူစွာပင် မုနာဖိက်များနှင့်သာ အထူးပတ်သက်ဆက်နွယ် မှုရှိသည့် အချို့သောစရိုက်ဆိုးများရှိသည်။ ဥပမာ-မုသားပြောခြင်း၊ ကတိဖောက်ဖျက်ခြင်း၊ အလွဲသုံးစားလုပ်ခြင်း စသည်ဖြင့် ထိုသို့သော စရိုက်ဆိုးများ၏ အရိပ်အယောင်ပင်လျှင် စစ်မှန်သော မွတ်စ်လင်မ် များတွင် မရှိအပ်ပါ။ အကယ်၍ရှိသွားမည်ဆိုပါက ထိုမွတ်စ်လင်မ်တွင် အယောင်ဆောင်မွတ်စ်လင်မ်တို့၏ အကျင့်ဆိုးစွဲကပ်သွားပြီဟု မှတ်ယူ ရမည်။

အချုပ်ဆိုရသော် မုနာဖိက် (၂) မျိုးနှစ်စားရှိသည်။ တစ်မျိုးမှာ အီမာန်နှင့်ယုံကြည်ချက်ကို အလွဲသုံးစားလုပ်ပြီး မွတ်စ်လင်မ် ဟန် ဆောင်ခြင်း၊ ဤအမျိုး၏ ဒုတိယအမည်မှာ အဆိုးရွားဆုံး ကုဖ်ရ် ဖြစ်

သည်။ ဒုတိယတစ်မျိုးမှာ အကျင့်၊ လုပ်ရပ်၊ စရိုက်အားဖြင့် မုနာဖိက်ဖြစ်သွားခြင်းကိုဆိုလိုသည်။

မွတ်စ်လင်မ်တစ်ဦးအတွက် ပထမအမျိုးဖြစ်သော ယုံကြည်ချက်ညစ်ညမ်းစေခြင်းမှ ရှောင်ကြဉ်ရန်အရေးကြီးသကဲ့သို့ ဒုတိယအမျိုးဖြစ်သောလုပ်ရပ်များ စရိုက်များစွန်းထင်းစေခြင်းမှလည်း ရှောင်ကြဉ်ရန်အရေးကြီးသည်။

အရှင်မြတ်ထိုကဲ့သို့သော စရိုက်ဆိုးများမှ ကျွန်ုပ်တို့အား ထိန်းသိမ်းပေးသနားတော်မူပါစေ။ အာမီးန်



## (၂၃) အဝတ်အစားကို ခြေမျက်စေ့ဖုံး ဝတ်သူများအတွက် ပြစ်ဒဏ်

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«لَا يَنْظُرُ اللَّهُ يَوْمَ الْقِيَامَةِ إِلَى مَنْ جَرَّ إِزَارَهُ بَطَرًا».

(رواه البخاري في كتاب اللباس، باب من جر ثوبه من الخيلاء).

"မာန်မာနထောင်လွှားစွာ ပုဆိုး၊ ဘောင်းဘီတို့ကို ခြေမျက်စေ့အောက်ထိ ဝတ်ဆင်သူများကို အရှင်မြတ်သည် ကေယာမသ်နေ့တွင် (ကရုဏာ၏အရှုဖြင့်) ရှုတော်မူမည်မဟုတ်ပေ။"

### ရှင်းလင်းချက်

ကိုယ်တော်မြတ် (ﷺ) ခေတ်အခါသမယ၌ ဝတ်စားဆင်ယဉ်မှုတွင် အပိုသုံးခြင်းသည် မာနထောင်လွှားသည့် အရစ်တို့၏ ဖက်ရှင်ဖြစ်ခဲ့သည်။ ထိုလုပ်ရပ်ကို ကြီးကျယ်ခြင်း၏ လက္ခဏာတစ်ရပ်ဟုလည်း သတ်မှတ်ကြသည်။ ပုဆိုး၊ (ဘောင်းဘီ)များကို မြေပေါ် တရွတ်တိုက်အောင် ရှည်လျားစွာဝတ်ဆင်ကြသည်။

ထို့အတူ အင်္ကျီ၊ ခေါင်းပေါင်း စသည့်အဝတ်အစားများတွင် အပိုဖြုန်းတီးပြီး မိမိကိုယ်မိမိ ကြီးကျယ်ကြောင်း၊တမူထူးသည့်ခေါင်းဆောင်ဖြစ်ကြောင်း ထုတ်ဖော်ပြသလိုကြသည်။ ဝတ်စားဆင်ယဉ်မှုတွင် ဖြုန်းတီးခြင်းဖြင့်နှလုံးသားရှိ မာနကိုထုတ်ဖော်ပြသည့်ဖက်ရှင်သည် အရစ်တို့ထံတွင် ရေပန်းစားနေသောကြောင့် ကိုယ်တော်မြတ် (ﷺ) သည် မိမိအွမ္မသ်သားများကို ဤသို့ပြုလုပ်ခြင်းမှ ပြင်းထန်စွာ တားမြစ်တော်မူခဲ့

သည်။ ကြောက်မက်ဖွယ်ကောင်းလှသည့် ခြိမ်းခြောက်မှုများလည်း ပြု လုပ်တော်မူခဲ့သည်။

လူတိုင်းအရှင်မြတ်၏ကရုဏာတော်ကို လိုအပ်နေမည့်ကေယာမသ် နေ့တွင် ခြေမျက်စေ့ဖုံးအုပ်စွာ ဝတ်ဆင်သူများသည် အရှင့်ကရုဏာမှ လက်မဲ့ဖြစ်ကြရမည်။ ခြေမျက်စေ့ဖုံးအုပ်ထားသည့် အတိုင်းအတာရှိ အစိတ်အပိုင်းများသည် ငရဲမီးတွင် လောက်မြိုက်စေခြင်းခံရမည်ဖြစ် သည်။

အဗူစအီးဒ်ခွဒ်ရီﷺဆင့်ပြန်သည့် ဟဒီးဆ်တော်အရ မုအ်မင်န်အမျိုး သားတို့အတွက် အကောင်းဆုံးမှာ လုံခြည်ကိုခြေသလုံး တစ်ဝက်ထိ သာဝတ်ဆင်ခြင်းဖြစ်သည်။ (ဤမျှမဖြစ်နိုင်လျှင်)ခြေမျက်စေ့အထက် ထိလည်းဝတ်ပိုင်သည်။ ခြေမျက်စေ့အောက် ရောက်သွားလျှင် ထို အစိတ်အပိုင်းသည် ငရဲလားရမည်ဖြစ်သည်။

သတိမမူမိဘဲ ခြေမျက်စေ့အောက်သို့ လုံချည်၊ ဘောင်းဘီများ ရောက်ရှိသွားခြင်းမျိုးဖြစ်ပါက ဟဇရသ်အိဗ်နေ့အုမရ်သခင် ﷺ ဆင့်ပြန် သည့် ဟဒီးဆ်တော်အရ အရေးယူခြင်းခံရမည်မဟုတ်ပေ။

ဖော်ပြပါ ဟဒီးဆ်တော်များကိုအခြေခံပြီး ပညာ့ရှင်များက အောက် ပါအတိုင်း သုံးသပ်မိန့်ဆိုထားကြသည်။ ခြေမျက်စေ့အောက်ထိ ပုဆိုး၊ ဘောင်းဘီများကို ဝတ်ဆင်ခြင်းသည် ...

(၁) မာနထောင်လွှားလိုစိတ်ကြောင့်ဖြစ်ပါက ဟရာမ်ဖြစ်မည်။

(၂) ဖက်ရှင်ကြောင့်ဆိုပါက မက္ကရူးဟ်ဖြစ်မည်။

(၃) သတိမမူမိခြင်းကြောင့်ဆိုပါက အရေးယူခံရမည်မဟုတ်။

လက်ရှိခေတ်တွင် ခြေမျက်စေ့ဖုံးဝတ်ဆင်ခြင်းသည် ခေတ်စားနေသောကြောင့် ဂရုစိုက်ရန်အရေးကြီးသည်။

ထိုလုပ်ရပ်အား ရှုံ့ရှာပြီး၊ ရောင်ကြည်လိုစိတ်များ ကျွန်ုပ်တို့နှလုံးသားတွင် အရှင်မြတ်ထည့်သွင်းပေးသနားတော်မူပါစေ။



## (၂၄) မုတ်ဆိတ်ထားပြီး နှုတ်ခမ်းမွေးညှပ်ခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«جُزُّوا الشَّوَارِبَ، وَأَرْخُوا اللُّحَى خَالِفُوا الْمَجُوْسَ».

(رواه مسلم في كتاب الطهارة، باب خصال الفطرة).

"နှုတ်ခမ်းမွေးညှပ်ကြကုန်၊ မုတ်ဆိတ်ထားကြကုန်၊ မဂျူစီ (မီးကိုးကွယ်သူ)တို့နှင့်ဆန့်ကျင်ကြကုန်။"

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်တွင် ကိုယ်တော်မြတ် (ﷺ) ကမုတ်ဆိတ်ထားပြီး နှုတ်ခမ်းမွေးညှပ်ရန် ရှင်းရှင်းလင်းလင်း မိန်ဆိုထားသည်။ ဤကဲ့သို့သော ဟဒီးဆ်တော်များကိုအထောက်အထားပြုကာ သာသာနာ့ပညာရှင်ကြီးများက နှုတ်ခမ်းမွေးညှပ်ခြင်းနှင့် မုတ်ဆိတ်ထားခြင်းကို (ဝါဂျိဗ်) ဟုမိန့်ဆိုထားကြသည်။ အခြားဟဒီးဆ်တော်များအရ မုတ်ဆိတ်ထားခြင်းသည် နဗီရစူလ်အပေါင်းနှင့် နဗီများ၏ခေါင်းဆောင်တမန်တော်မြတ် (ﷺ) ၏စွန္နသ်တော်ဖြစ်ကြောင်းသိရသည်။

အချို့ဆင့်ပြန်ချက်များတွင် မုတ်ဆိတ်ရိပ်ခြင်းနှင့်စပ်လျဉ်း၍ ကိုယ်တော်မြတ် (ﷺ) ဒေါသထွက်ကြောင်းလည်းတွေ့ရသည်။ မုတ်ဆိတ်ရိပ်ထားသော ကျမ်းရပုဂ္ဂိုလ်တစ်ချို့ ကိုယ်တော်မြတ် (ﷺ) ထံ အခစားဝင်လာသောအခါ ကိုယ်တော်ကမျက်နှာတော် လွှဲပစ်ခဲ့ကြောင်း လာရှိသည်။

သို့သော်ဝမ်းနည်းစရာကောင်းသည့်အချက်မှာ ယနေ့ခေတ်အွမ္မာသ် ရှိလူအများစုမှာ ဤချစ်စဖွယ်စွန္နသ်တော်နှင့် လက်မဲ့ဖြစ်နေရသည်။ မုတ်ဆိတ်ထားခြင်းသည် ကျွန်ုပ်တို့၏နှစ်ဘဝလမ်းပြသခင် ကိုယ်တော်မြတ် (ﷺ) နှင့် နဗီတမန်တော်အပေါင်း၏လမ်းစဉ်နှင့် ဆက်နွယ်နေကြောင်း၊ မုတ်ဆိတ်မထားခြင်းသည် နဗီတမန်တော်အပေါင်း၏ လမ်းစဉ်ကိုငြင်းဆန်သူတို့၏ လုပ်ရပ်ဖြစ်ကြောင်း ကျွန်ုပ်တို့မွတ်စ်လင်မ်များ သိရှိလျှင် အဘယ်မျှကောင်းမည်နည်း။

မုတ်ဆိတ်များသည် ဖရိုဖရဲရှည်ထွက်လာပါက ညီညာစွာပြုသင့်ကြောင်း ဟဒီးဆ်တော်များတွင်လာရှိသည်။ ကိုယ်တော်မြတ် (ﷺ) နှင့် ဆွဟာဗာတို့လည်း ဤသို့ပြုခဲ့ကြောင်း အထောက်အထားများရှိသည်။ ထိုသို့ပြုနိုင်သည့်အတိုင်းအတာမှာ လက်တစ်ဆုပ်စာကျော်သွားခြင်းဟု ပညာရှင်များက သတ်မှတ်ထားပါသည်။

ကျွန်ုပ်တို့သည် ကိစ္စရပ်တိုင်းတွင် လမ်းမှားနေသူများနှင့်ဆန့်ကျင်ရမည်ဖြစ်ကြောင်း ဟဒီးဆ်တော်၏အဆုံးပိုင်းကလည်း မီးမောင်းထိုးပြနေပါသည်။ အရှင်မြတ်နှင့်တုဖက်နှိုင်းယှဉ်သူများ၊ တရားသစ်တီထွင်သူများ၏နေပုံထိုင်ပုံ၊ သွားပုံလာပုံတို့အား ရွေးချယ်ခြင်းသည် အီမာန်ရှင်တို့၏အချင်းလက္ခဏာမဟုတ်ပါ။ အရှင်မြတ်ကကျမ်းမြတ်ကုရ်အာန်တွင် အသင်တို့သည် မိမိကိုယ်မိမိညှင်းပမ်းနှိပ်စက်သူများ၏ လမ်းစဉ်ဘက်သို့ ယိမ်းယိုင်ခြင်းအလျဉ်းမပြုကြကုန်နှင့်၊ သို့မဟုတ်ပါက အသင်တို့ကို ငရဲမီးထိရောက်လာလိမ့်မည်။ ဟုမိန့်တော်မူထားသည်။

အတွေးအခေါ်အရဖြစ်စေ၊ အလုပ်သဘောအရဖြစ်စေ၊ ဝတ်စားဆင်ယဉ်မှုအရဖြစ်စေ၊ အပြင်ပိုင်းပုံပန်းသဏ္ဌာန်အရဖြစ်စေ မည်သည့်ကဏ္ဍတွင်မှ ရှစ်ရ်က်ပြုသူများဘက်သို့ ယိမ်းယိုင်သွားခြင်းမပြုအပ်။ ထိုသို့ယိမ်းယိုင်သွားခြင်းသည် အရှင်မြတ်ကိုဒေါသထွက်စေသည်။

ဟဒီးဆ်တော်တွင် မီးကိုးကွယ်သူ (မဂျူစီ)များနှင့်ဆန့်ကျင်ကြဟု အထူးမိန့်ကြားထားခြင်းမှာ မုတ်ဆိတ်ရိပ်ပြီး နှုတ်ခမ်းမွေးရှည်ရှည်ထားသည့်ဓလေ့ဆိုးမှာ ၎င်းတို့ထံ ရေပန်းစားလွန်းသောကြောင့်ဖြစ်သည်။

မုတ်ဆိတ်ထားပြီးနှုတ်ခမ်းမွေးညှပ်ခြင်း၏ (ဟစ်ကမသ်) လျှို့ဝှက်ချက်များအနက် တစ်ခုမှာ မဂျူစီများနှင့်ဆန့်ကျင်ခြင်းလည်းဖြစ်သည်။

ကျွန်ုပ်တို့ မွတ်စ်လင်မ်အပေါင်းသည် လမ်းမှားသူများနှင့်ဆန့်ကျင်ကြရန်လည်း အမိန့်ပေးခံထားရကြောင်းသိရှိရသည်။



## (၂၅) စလာမ်(မေတ္တာ)၏ ပတ်ဝန်းကျင်တည်ထောင်ခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «أَفْشُوا السَّلَامَ بَيْنَكُمْ».

(رواه مسلم في كتاب الطهارة، باب بيان أنه لا يدخل الجنة إلا المؤمنون).

"အသင်တို့အချင်းချင်းကြား စလာမ်(မေတ္တာပို့သခြင်း)ကို ပြန့်ပွားအောင်ပြုလုပ်ကြကုန်။"

**ရှင်းလင်းချက်**

လောကရှိ တိုးတက်ဖွံ့ဖြိုးသော လူမျိုးစုတိုင်းသည် အချင်းချင်းတွေ့ဆုံချိန် ချစ်ခင်ခြင်း၊ ဂုဏ်ပေးလေးစားလိုခြင်းနှင့် အကောင်းလိုလားခြင်းကို သက်သေထူရန် (သို့) တစ်ဖက်လူနှင့်ရင်းနှီးမှုရရန်နှင့် ပျော်ရွှင်စေရန် သီးသန့်နှုတ်ခွန်းဆက်စကားတစ်ခု ပြောဆိုသည့်ဓလေ့ရှိခဲ့သည်။

ကျွန်ုပ်တို့နဗီတမန်တော် (ﷺ) က اَلسَّلامُ عَلَيْكُمْ (အသင်တို့အပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေ)ဟု နှုတ်ခွန်းဆက်သရန် လေးနက်စွာ မိန့်မှာထားပေသည်။ ဤနှုတ်ခွန်းဆက်စကားထက် ပိုမိုပြီး အချစ်သက်သေထူပြနိုင်မည့်စကားလည်း မရှိနိုင်ပါ။

ဤနှုတ်ခွန်းဆက်စကားတွင် အကောင်းဆုံးသော ဆုမွန်များပါရှိနေသည်။ သို့သာမက ငယ်ရွယ်သူများအား ကြင်နာခြင်း၊ သက်ကြီးရွယ်အိုများအား ဂုဏ်ပေးလေးစားခြင်းများသည်လည်း ထိုနှုတ်ခွန်းဆက်စကားတွင် တိမ်မြုပ်နေသည်။ ထို့အတူ اَلسَّلامُ ဟူသောပုဒ်သည်

အရှင်မြတ်၏ ဂုဏ်တော်များအနက်တစ်ခုဖြစ်သည်။ မြင့်မြတ်တော်မူသောအရှင်မြတ်က နဗီတမန်တော်များအတွက်လည်း ဤ اَلسَّلاَمُ ဂုဏ်ပုဒ်အား ချစ်ခြင်းမေတ္တာအပြည့်ဖြင့် ဂရုတစိုက် အသုံးပြုထားတော်မူသည်။

တွေ့ဆုံရသည့်ညီနောင်သည် အစကတည်းက သိရှိပြီးဖြစ်နေပါကလည်း စလာမ်ပေးခြင်းဖြင့် အချစ်များပိုတိုးလာမည်။ ဤနှုတ်ခွန်းဆက်စကားကြောင့် တွေ့ဆုံလာသူနှလုံးသားတွင် ယုံကြည်မှုများ၊ အကောင်းအတွက် မျှော်လင့်ချက်များလည်း ကိန်းအောင်းလာမည်ဖြစ်သည်။

အချုပ်ဆိုရသော် စလာမ်သည် အစ္စလာမ်သာသနာတော်၏ အထိမ်းအမှတ်တစ်ခုလည်းဖြစ်သည်။ စလာမ်သည် မွတ်စ်လင်မ်အချင်းချင်း စောင့်ထိန်းအပ်သည့် ဝတ္တရားတစ်ရပ်လည်းဖြစ်သည်။ ကိုယ်တော်မြတ် (ﷺ) က စလာမ်၏ မြောက်မြားစွာသော အကျိုးကျေးဇူးများကိုလည်းတင်ပြထားသည်။ မွတ်စ်လင်မ်အချင်းချင်း ချစ်ခင်မှုများ တည်ဆောက်ရန် အကြောင်းခံလည်းဖြစ်သည်။ စလာမ်ပေးခြင်းသည် ဂျန္နသ်ဝင်ရန် အကြောင်းခံလည်းဖြစ်သည်။ စလာမ်စတင်ဆက်သသူသည် အရှင်မြတ်နှင့်ပိုမိုနီးကပ်ခွင့်ရမည်ဖြစ်ပြီး အရှင့်ကရုဏာဖြင့် အထိုက်သက်ဆုံးသူအဖြစ် သတ်မှတ်ခံရသည်။ စလာမ်သည် မာန်မာနကို ကုသရန် ဆေးစွမ်းကောင်းတစ်လက်လည်းဖြစ်သည်။

ကိုယ်တော်မြတ် (ﷺ) က اَلسَّلاَمُ عَلَيْكُمْ ဟုဆက်သသူ အတွက် ကောင်းမှု (၁၀) ခုရေးမှတ်ခြင်းခံရမည်။ وَرَحْمَةُ اللهِ ဟုဆက်သသူအတွက်

ကောင်းမှု (၂၀)၊ وَبَرَكَاتُهُ ဟုပါတိုးပြီး ဆက်သသူအတွက် ကောင်းမှု (၃၀) ရေးမှတ်ခြင်းခံရမည်" ဟုအမိန့်ရှိ ထားတော်မူသည်။

စလာမ်ဆက်သခြင်း၏ ပညတ်ချက်များအနက်တစ်ခုမှာ အကာ အကွယ်တစ်ခု ခြားသွားလျှင်သော်လည်းကောင်း၊ အချိန်အနည်းငယ်အ တွင်း ပြန်လည်တွေ့ဆုံခွင့်ရလျှင်သော်လည်းကောင်း အသစ်တဖန် စလာမ်ဆက်သရမည်။

တစ်ဦးတည်းရှိသူက အုပ်စုအပေါ်၊ လူနည်းစုက လူများစုအပေါ်၊ စီးနင်းသူက ခြေလျင်လျှောက်သူအပေါ်၊ ရောက်လာသူများက ထိုင်နေ သူများအပေါ် စလာမ်ဆက်သရမည်ဖြစ်သည်။ ထို့အတူ ခွဲခွာချိန် စလာမ်ဆက်သခြင်းသည်လည်း စွန္နသ်ဖြစ်သည်။

စလာမ်ဆက်သရာတွင် မိမိ၏စလာမ်သံကြောင့် အိပ်စက်နေသူ လည်း နိုးမသွားစေရန်၊ တစ်ဦးတစ်ယောက်ကို ဒုက္ခပေးခြင်းမျိုး မဖြစ် စေရန် အထူးသတိထားရမည်။

အရှင်မြတ်ကျွန်ုပ်တို့အားလုံးကို ဤမြှချစ်စဖွယ်ကောင်းလှသည့် ရှိသေသမှုများကို သင်ယူနိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။(အာမီးန်)

ooo

## (၂၆) နှာချေသူသည် အရှင်မြတ်ကို ချီးမွမ်းရန်

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«إِذَا عَطَسَ أَحَدُكُمْ فَلْيَقُلْ: اَلْحَمْدُ لِلّهِ».

(رواه البخاري في كتاب الأدب، باب إذا عطس كيف يشمت).

"အသင်တို့အနက် တစ်ဦးတစ်ယောက်သည် နှာချေပါက اَلْحَمْدُ لِلَّهِ ဟုဆိုလိုက်ရမည်။"

### ရှင်းလင်းချက်

နှာချေလိုက်ခြင်းဖြင့် ကျန်းမာရေးကို ထိခိုက်စေသည့် ပိုးမွှားများ၊ အညစ်အကြေးများ ဦးနှောက်နှင့် ခန္ဓာကိုယ်မှ ထွက်သွားတတ်သည်။ ထို့ကြောင့် သာမန်ကျန်းမာရေးကောင်းမွန်သည့် အခြေအနေမျိုးတွင် နှာချေခြင်းမှာ အရှင်မြတ်၏ ကျေးဇူးတစ်ရပ်ဖြစ်သည်။ ထို့ကြောင့် နှာချေသူသည် အရှင်မြတ်ကို اَلْحَمْدُ لِلَّهِ ဟုချီးမွမ်းရန်လမ်းညွှန်ထားခြင်းဖြစ်သည်။ ထို့အတူအနီးတွင်ရှိသူကလည်း နှာချေသူကို يَرْحَمُكَ اللهُ (အရှင်မြတ်အသင့်ကိုသနားတော်မူပါစေ) ဤသို့နှာချေခြင်းသည် အသင့်အတွက် ကောင်းခြင်းများ ဆောင်ကြဉ်းလာပါစေဟု ဒိုအာကောင်း ချီးမြှင့်ပေးလိုက်ရမည်။ ထိုဒိုအာချီးမြှင့်သံကို ကြားလိုက်ရသောအခါ နှာချေသူက တဖန်ဒိုအာပေးသည့်ညီနောင်ကို يَهْدِيْكُمُ اللهُ وَيُصْلِحُ بَالَكُمْ (အရှင်မြတ်အသင်တို့ကို တရားလမ်းမှန်ချီးမြှင့်ပြီး အသင်တို့၏ အခြေအနေအရပ်ရပ်ကို ကောင်းမွန်စွာပြု ပေးသနားတော်မူပါစေ)ဟုဆုမွန်ကောင်းတောင်းပေးလိုက်ရမည်။

နှာချေစဉ် နှားခေါင်းနှင့်ပါးစပ်ပေါ် လက် (သို့) အဝတ်တစ်ခုခု အုပ်ထားခြင်းမှာလည်း စွန္နသ်ဖြစ်သည်။ အကယ်၍ အကြိမ်ကြိမ်နှာချေလျှင်(သို့)ရောဂါကြောင့် နှာချေခြင်းမျိုးဖြစ်လျှင် အထက်တွင် ဖော်ပြခဲ့သည့်ဒိုအာများ ရွတ်ဆိုရန် မလိုအပ်တော့ပါ။



## (၂၇) ရိုကျိုးခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«مَا تَوَاضَعَ أَحَدٌ لِلّٰهِ إِلَّا رَفَعَهُ اللهُ عَزَّ وَجَلَّ».

(رواه مسلم في كتاب البر والصلة، باب استحباب العفو والتواضع)

"မည်သူမဆို အရှင်မြတ်အတွက် ခယရိုကျိုးလိုက်ပါက အရှင်မြတ် သည် ထိုသူ၏ အဆင့်အတန်းအားမြင့်မားစေတော်မူမည်။"

**ရှင်းလင်းချက်**

ခယရိုကျိုးခြင်း၊ မိမိကိုယ်မိမိနှိမ့်ချခြင်းဆိုသည့် အကျင့်သီလသည် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် လေးနက်စွာတိုက်တွန်း နှိုးဆော်ခြင်းခံထားရသည့် စာရိတ္တများအနက်မှဖြစ်သည်။ လူသားဆို သည်မှာ အရှင့်ကျေးကျွန်သာဖြစ်သည်။ ကျေးကျွန်တစ်ဦး၏ ပြီးပြည့်စုံ သည့်အလှတရားမှာ ထိုသူ၏လုပ်ရပ်တိုင်းတွင် ရိုကျိုးခြင်း၊ နှိမ့်ချခြင်း၊ အမိန့်နာခံခြင်းများ ထင်ဟပ်နေခြင်းပင်ဖြစ်သည်။ တနည်းဆိုရသော် ရိုကျိုးခြင်းနှင့် မိမိကိုယ်ကိုနှိမ့်ချခြင်းတို့သည် ကျေးကျွန်ပီသခြင်း၏ ပြယုဂ်ဖြစ်သည်။

လူသား၏ ကျွန်ပီသခြင်း၊ အမိန့်နာခံခြင်းသည် အရှင်မြတ်ကို အ လွန်ပင်နှစ်သက်စေသည်။ ထို့ကြောင့် မိမိအချစ်ဆုံးနဗီအား မိအ်ရားဂျ် ကောင်းကင်ဘုံနန်းခရီးသို့ ပင့်ခေါ်ချိန် ချီးမွမ်းသောအခါ (အကြင်အ ရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူ၏။ ထိုအရှင်မြတ်သည် တစ် ညဉ့်ထဲတွင် မိမိကျွန်(နဗီတမန်တော်မုဟမ္မဒ်)အား "မတ်စ်ဂျေ့ဒ္ဒေ

ဟာရာမ်"မှ"မတ်စ်ဂျေ့ဒ်ဒွေအတ်က်စွာ" ၀တ်ကျောင်းတော်သို့ခေါ်ဆောင်သွားခဲ့တော်မူ၏။) ဟုမိန့်ဆိုထားပေသည်။

ရိုကျိုးမှု၏ ဆန့်ကျင်ဘက်ဖြစ်သော မာနထောင်ခြင်း၊ မောက်မာခြင်းတို့သည် အရှင်မြတ်အမုန်းဆုံးဖြစ်သည်။ မောက်မာပလွှားသူကို အရှင်မြတ် နှိမ့်ချပစ်တော်မူမည်ဟုလည်း ဟာဒီးဆ်တော်များတွင် လာရှိသည်။ ထိုသို့ပြုခြင်းခံရသူသည် မိမိကိုယ်မိမိအထင်ကြီးနေလင့်ကစား လူတို့၏ အရှေ့တွင် သေးသိမ်ယုတ်ညံ့သူ၊ တန်ဖိုးမဲ့သူသာဖြစ်နေမည်။

အခြားဆင့်ပြန်ချက်တစ်ရပ်တွင် "မြူမှုန်ခန့်မျှပင် မာနရှိသူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်" ဟူ၍လာရှိထားသည်။

အရှင်မြတ်ကျွန်ုပ်တို့အားလုံးအား ဤမျှယုတ်ညံ့ အကျည်းတန်လှသည့် ရောဂါဆိုးမှ ထိန်းသိမ်းပေးသနားတော်မူပြီး မိမိကိုယ်မိမိ နှိမ့်ချနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ (အာမီးန်)



## (၂၈) အရှက်သိက္ခာ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «اَلْحَيَاءُ شُعْبَةٌ مِنَ الْإِيْمَانِ».

(رواه البخاري في كتاب الإيمان، باب أمور الإيمان).

"အရှက်တရားထားခြင်းသည် အီမာန်၏ကဏ္ဍတစ်ခုဖြစ်သည်။"

**ရှင်းလင်းချက်**

လူ့အကျင့်စာရိတ္တများတွင် အရှက်တရား၏ အဆင့်အတန်းသည် အလွန်ပင်မြင့်မားသည်။ အရှက်တရားဆိုသည်မှာ လူသားအား မကောင်းသောလုပ်ရပ်များ၊ သဘာဝနှင့်ဆန့်ကျင်သည့် ကိစ္စရပ်များ၏ အနီးကပ်ခြင်းမှ ကြောက်ရွံ့စေသောဗီဇ၊ သဘာဝကိုဆိုလိုသည်။ အရှက်တရားသည် လူသားနှင့် မကောင်းသောလုပ်ရပ်များကြား ကာဆီးထားသောအကာအရံတစ်ခုလည်းဖြစ်သည်။ထို့ အကာအဆီးကြောင့် လူသားသည် များစွာသောဒုစရိုက်များမှ ရောင်ကြဉ်သွားနိုင်သည်။

ထို့ကြောင့် အရှက်တရားနှင့် အီမာန်တွင် ခိုင်မာသောဆက်စပ်မှု များရှိနေခြင်းဖြစ်သည်။ နဗီတမန်တော်မြတ် (ﷺ) က ဆွဟာဗာတစ်ပါး အား "အရှက်တရားမရှိတော့လျှင် အသင်ကြိုက်ရာလုပ်ပေတော့" ဟု သတိပေးခဲ့သည်။ အရှက်တရားသည် ဖန်ဆင်းခံအချင်းချင်းကြား၌သာ ထားရှိရမည်မဟုတ်။ ဖန်ဆင်းရှင်နှင့်ပတ်သက်ပြီးလျှင်လည်း ပိုမို၍ပင် အရှက်တရားထားရှိရမည်ဖြစ်သည်။

များသောအားဖြင့် သက်ကြီးရွယ်အိုများအား ဂရုမစိုက်သူကို လူ့ပတ်ဝန်းကျင်က အရှက်မရှိသူဟုသတ်မှတ်ကြသည်။ ဤသူသည်လည်း မုချမရှက်တတ်သူဖြစ်သည်။ သို့သော် အရှက်တရားမရှိဆုံးသောသူမှာ မိမိဖန်ဆင်းရှင်က လုပ်ရပ်တိုင်းကိုမြင်နေ၊ ကြားနေတော်မူသည်ဟူသော အသိတရားရှိပါလျှက် မကောင်းသောလုပ်ရပ်များကို ကျူးလွန်နေသူသာဖြစ်သည်။

သိရ်မေ့ဇီကျမ်းလာ ဆင့်ပြန်ချက်တစ်ခုအရ ကိုယ်တော်မြတ် (ﷺ) က မိမိသာဝကတော်များအား ဤသို့မိန့်ကြားခဲ့သည်။ "အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရှက်ကြောက်ထိုက်သည့်အတိုင်း ရှက်ကြောက်ကြကုန်။ ထိုအခါ ဆွဟာဗာတို့က အလ်ဟမ်ဒုလိလ္လာဟ် ကျွန်ုပ်တို့ရှက်ကြောက်ကြပါသည်ဟု ဖြေလျှောက်ကြသည်။ ကိုယ်တော်မြတ် (ﷺ) က "အရှင်မြတ်အား ရှက်ကြောက်ခြင်းဆိုသည်မှာ သာမန်အရှက်တရားကို ဆိုလိုခြင်းမဟုတ်ပေ။ အရှင်မြတ်ကို အစစ်အမှန်ရှက်ကြောက်ခြင်း ဆိုသည်ကို အောက်ပါအတိုင်း သဘောပေါက်ထားရမည်။ ဦးနှောက်ထဲဝင် ရောက်လာတတ်သည့် အတွေးများ သန့်စင်လာအောင်ဂရုစိုက်ပါ။ ဝမ်းဗိုက်တွင်း ထည့်သွင်းသည့် အစားအစာများကို စနစ်တကျစိစစ်ပါ။ (ဦးနှောက်ကို မှားယွင်းသောအတွေးအခေါ်များမှ၊ ဝမ်းဗိုက်ကို ဟရာမ်အစားအစာများမှ ထိန်းသိမ်းထားခြင်းတို့ကိုဆိုလိုသည်။) တဖန် ကွယ်လွန်ပြီးနောက် ကဗရ်အတွင်းကြုံဆုံရမည့် အခြေအနေများကို ယခုကတည်းက ကြိုတင်စဉ်းစားထားရမည်။

အထက်ပါကိစ္စရပ်များကို လိုက်နာဆောင်ရွက်ထားသူသည် အရှင်မြတ်အား ရှက်ကြောက်သင့်သည့်အတိုင်း ရှက်ကြောက်ထားသူသာဖြစ်သည်။"



## (၂၉) မိတ်ဆွေဖွဲ့တတ်ပါစေ

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «اَلرَّجُلُ عَلَى دِيْنِ خَلِيْلِهِ، فَلْيَنْظُرْ أَحَدُكُمْ مَنْ يُخَالِلُ».

(رواه الترمذي في كتاب الزهد)

"လူသားသည် မိမိချစ်မိတ်ဆွေ၏ လမ်းစဉ်ပေါ်တွင် ရပ်တည်နေတတ်သည်။ ထို့ကြောင့် လူတိုင်းသည် ကိုယ်ချစ်မိတ်ဆွေဖွဲ့မည့်သူအား ဂရုတစိုက် စိစစ်ပါ။"

### ရှင်းလင်းချက်

မိမိချစ်မြတ်နိုးသူကို မိတ်ဆွေဖွဲ့တတ်ခြင်းသည် လောက၏ နိယာမတစ်ခုပင်ဖြစ်သည်။ လူသားသည် မိမိချစ်မြတ်နိုးသည့် မိတ်ဆွေနှင့် အတူသွားအတူထိုင်ပြီး မိတ်ဆွေ၏အချစ်ကြောင့် ၎င်းလျှောက်လှမ်းသောလမ်းစဉ်ကို နှစ်သက်လာတတ်သည်။ ထိုလမ်းစဉ်အတိုင်းဘဝကုန်ဆုံးရန်လည်း ကြိုးစားလာတတ်သည်။

သူငယ်ချင်းတစ်ဦးနှင့်တစ်ဦး၏ နေထိုင်မှုစနစ်များသည် များသောအားဖြင့်တူညီတတ်သည်။ အတွေးအခေါ်များ နီးနီးစပ်စပ်ရှိနေခြင်းသည် မိတ်ဆွေဖြစ်ခြင်း၏ အဓိကအုတ်မြစ်ဖြစ်နေရခြင်းမှာ အများအသိပင်ဖြစ်သည်။ အရှင်မြတ်အတွက်ဖြစ်သော မိတ်ဆွေဖွဲ့ခြင်းမှာ အကောင်းဆုံးဖြစ်သည်။ ထိုသို့မိတ်ဆွေဖွဲ့ခြင်းမျိုးတွင် အချင်းချင်းကောင်းရာညွှန်ကြား၊ မကောင်းမြစ်တားခြင်းများပါဝင်နေရမည်။

လောကီအတွက်သက်သက်ဖြစ်သော မိတ်ဆွေဖွဲ့ခြင်းမှာ တမလွန်တွင် ရန်ငြိုးအဖြစ်ပြောင်းလဲသွားမည်။ မြင့်မြတ်တော်မူသော အရှင်မြတ်က အောက်ပါအတိုင်းမိန့်ထားသည်။ (ထိုနေ့တွင် သူတော်စင်တို့မှတပါး အခြားမိတ်ဆွေရင်းချာတို့မှာ အချို့သည်အချို့၏ရန်သူများပင်ဖြစ်ကြပေမည်။)

ထိုကေယာမသ်နေ့တွင် လမ်းမှားခြင်းပေါ် တည်ဆောက်ခဲ့သည့်မိတ်ဆွေဖြစ်ခြင်း၏ ဆုံးရှုံးမှုကိုခံစားလာရမည်။ ဆုံးရှုံးရခြင်း၏အကြောင်းခံဖြစ်သော ချစ်မိတ်ဆွေများသည် အချင်းချင်း ရှုံမုန်းလာကြမည်။

ယနေ့ခေတ်တွင် များသောအားဖြင့် တစ်ကိုယ်ရည် အကျိုးစီးပွားများ၊ ရည်ရွယ်ချက်များအတွက်မိတ်ဆွေဖွဲ့နေကြသည်။ ထိုမသမာသောရည်ရွယ်ချက်များပေါ် ကျင်းပသည့် အခမ်းအနားများ၏ ဆိုးကျိုးများသည်လည်းနေ့စဉ် မျက်မြင်ကိုယ်တွေ့ဖြစ်သည်။ လောကတွင်ပင်မျက်ဝါးထင်ထင် ဆိုးကျိုးများ မြင်တွေ့နေရသည်ဖြစ်ရာ တမလွန်တွင်ဆုံးရှုံးရမည်မှာ မြေကြီးလက်ခပ်မလွဲပင်။

လောကတွင် မိတ်ဆွေဖွဲ့ခြင်းများသည် အရှင်မြတ်အတွက် သက်သက်ဖြစ်ခဲ့မည်၊ အရှင်မြတ်အတွက် အချင်းချင်း ချစ်ခဲ့မည်ဆိုပါကဟဒီးဆ်တော်များတွင် များစွာသောအကျိုးကျေးဇူးများ လာရှိထားသည်။ မုစ္စနဒ်အဗ်ဒွရ်ရဇ္ဇားက်ကျမ်းတွင် ဟဇရသ်အလီﷺထံမှဆင့်ပြန်ချက်တစ်ရပ်လာရှိသည်။ "မုအ်မင်နိမိတ်ဆွေနှစ်ဦးနှင့် ကာဖိရ်

မိတ်ဆွေနှစ်ဦးရှိခဲ့သည်။ မုအ်မင်န်မိတ်ဆွေနှစ်ဦးအနက် တစ်ဦး ကွယ်လွန်သွားပြီးနောက် ဂျန္နသ်၏သတင်းကောင်းပေးခြင်းခံလိုက်ရသည်။ ကွယ်လွန်သူသည် လောကရှိ မိမိမိတ်ဆွေအားသတိရပြီး "အိုအရှင် လောကတွင်ရှင်လျက်ကျန်ရစ်ခဲ့သည့် ကျွန်ုပ်၏မိတ်ဆွေသည် ကျွန်ုပ်အား ကောင်းရာညွှန်ကြား မကောင်းမြစ်တားခြင်းများပြုခဲ့ပြီး သေခြင်းတရားကိုလည်းသတိရစေခဲ့သည်၊ ထို့ကြောင့် ကျွန်ုပ်အား ချီးမြှင့်ထားသည့် စည်းစိမ်များကို ထိုသူ့ကိုလည်းချီးမြှင့်ပေးသနားတော်မူပါ။ လောကတွင်လမ်းလွှဲသွားခြင်းမှ ထိန်းသိမ်းပေးပါ" ဟုဆုမွန်ကောင်းတောင်းပေးမည်။ ထိုအခါ အရှင်မြတ်ဘက်တော်မှ "ထိုသူပိုင်ဆိုင် ရရှိမည့် စည်းစိမ်များကို အသင့်အား ပြောပြလိုက်မည်ဆိုပါက အသင်သည် အနည်းငယ်သာငိုပြီး များများရယ်မောရမည်။" ထို့နောက် လောကရှိမိတ်ဆွေသည်လည်းကွယ်လွန်သွားသော် နှစ်ဦးလုံး၏ဝိညာဉ်များကို ဆုံတွေ့စေပြီး အချင်းချင်းချီးမွမ်းရန် အရှင့်ဘက်မှ အမိန့်တော်လာရှိမည်။

ယင်း၏ ဆန့်ကျင်ဘက်တွင် ကာဖိရ်မိတ်ဆွေနှစ်ဦးအနက် တစ်ဦး ကွယ်လွန်သွားပြီးနောက် မိမိ၏မကောင်းသောလုပ်ရပ်များ၏ရလဒ်ဆိုးများကို တွေ့လိုက်ရသောအခါ "အိုအရှင် ကျွန်ုပ်မိတ်ဆွေကသာ ကျွန်ုပ်အား လမ်းမှားအောင်ပြုလုပ်ခဲ့ပါသည်။ ထိုသူ့ကိုလည်း ငရဲမီး၏ အရသာခံစားစေပါ။" ဟုလျှောက်ထားမည်။ လောကရှိမိတ်ဆွေလည်း ကွယ်လွန်သောအခါ နှစ်ဦးလုံး၏ဝိညာဉ်များကို ဆုံဆည်းစေတော်မူပြီး

အချင်းချင်း ပြစ်တင်ရှုတ်ချရန် အမိန့်တော်လာရှိမည်။ ထိုထက်ပင်မက သေး နှစ်ဦးလုံးငရဲလားကြရမည်။ အရှင်မြတ် ကျွန်ုပ်တို့အား (ထိုအဖြစ်ဆိုးမှ) ထိန်းသိမ်းပေးသနားတော်မူပါ။ (အာမီးန်)



## (၃၀) ကေယာမသ်နေ့တွင် လင်းလက်နေမည့်ဝုဇူအဆစ်အပိုင်းများ

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«تَرِدُوْنَ عَلَيَّ غُرًّا، مُحَجَّلِيْنَ مِنْ أَثَرِ الْوُضُوْءِ».

(رواه الترمذي في كتاب الزهد)

"ငါကိုယ်တော့်ထံ (ကောင်ဆရ်ရေ)သောက်သုံးရန်လာသောအခါ အသင်တို့၏ နဖူးဆံစများ၊ လက်၊ ခြေထောက်များသည် ဝုဇူရေသန့်စင်ခဲ့ခြင်းကြောင့် လင်းလက်တောက်ပနေမည်။"

### ရှင်းလင်းချက်

လောကတွင် ဝုဇူပြုခြင်းကြောင့် ခြေလက်များသန့်ပြန့်သွားမည်မှာ သေချာသည်။ သို့သော် ဝုဇူပြုခြင်း၏အကျိုးစစ် အကျိုးမှန်များမှာ ဤဟဒီးဆ်တော်နှင့် အခြားဟဒီးဆ်တော်များတွင် လာရှိထားသည့်အတိုင်းပင်ဖြစ်သည်။ ဟဒီးဆ်တော်တစ်ရပ်တွင် "မည်သူမဆို (ဝုဇူ၏ စည်းကမ်းများ၊ စွန္နသ်တော်များကို ဂရုစိုက်ကာ) ဝုဇူပြု လုပ်လိုက်မည်ဆိုပါက ၎င်းကျူးလွန်မိခဲ့သည့်အကုသိုလ်များသည် ဝုဇူရေဖြင့်ဆေးကြောပြီးသား ဖြစ်သွားကာ သန့်ပြန့်မှုရသွားမည်။ သို့သာမက ကေယာမသ်နေ့တွင် ဟဒီးဆ်တွင်ဖော်ပြထားသည့်အတိုင်းပင် ဝုဇူပြုလုပ်သည့် ကိုယ်တော်မြတ် (ﷺ)၏ အွမ္မသ်သားများ၏မျက်နှာ၊ လက်၊ ခြေထောက်များသည် လင်းဝင်းတောက်ပနေမည်ဖြစ်သည်။ ဤသည် ကေယာမသ်နေ့၌ ကိုယ်တော့်အွမ္မသ်၏ ထင်ရှားလှစွာသော အမှတ်

အသားဖြစ်နေမည်။ ဝုဇူစံချိန်မီသည့်အတိုင်းအတာနှင့်အညီ လင်းဝင်းတောက်ပမှုသည်လည်း ပြည့်ဝနေမည်ဖြစ်သည်။

မည်သူမဆို ဤလင်းဝင်းတောက်ပမှုကို အပြည့်အဝရယူရန် ကြိုးစားနေရမည်။ ထိုသို့လုပ်နည်းလုပ်ဟန်မှာ ဝုဇူကိုစည်းကမ်းချက်များနှင့်တကွ အမြဲဂရုတစိုက်ဆောင်ရွက်နေရမည်။

ယနေ့စက်ယန္တရားခေတ်တွင် ဝုဇူသည်လည်း စက်ကိရိယာတစ်ခုသဖွယ်ဖြစ်သွားရသည်။ နိယသ်ဆန်းစစ်ရန်သတိရခြင်း၊ ဒိုအာရွတ်ဆိုခြင်း စသည်တို့သည်လည်း ကွယ်ပျောက်သွားရသည်။

ဟဒီးဆ်တော်တစ်ပုဒ်တွင် "ဝုဇူမစမီ بسم الله الرحمن الرحيم ရွတ်ဆိုလိုက်ခြင်းဖြင့် ခန္ဓာကိုယ်တစ်ခုလုံးမှ အကုသိုလ်များမှာ သန့်စင်သွားပေမည်။" ဟုလာရှိထားသည်။

သိရ်မေ့ဇီကျမ်းလာ ဟဒီးဆ်တော်တစ်ပုဒ်အရ ဝုဇူပြုလုပ်ပြီးနောက် အောက်ပါ ကလေ့မဟ်တော်များကို ရွတ်ဆိုလိုက်ခြင်းဖြင့် ထိုသူ့အတွက် ဂျန္နသ်သုခဘုံ၏တံခါး (၈) ပေါက်လုံးပွင့်သွားမည်။ ထို ကလေမဟ်တော်များမှာ အောက်ပါအတိုင်းဖြစ်သည်။

أَشْهَدُ أَنْ لَا إِلَهَ إِلَّا اللّٰهُ وَحْدَهُ لَا شَرِيْكَ لَهُ، وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهُ وَرَسُوْلُهُ،

اَللّٰهُمَّ اجْعَلْنِيْ مِنَ التَّوَّابِيْنَ، وَاجْعَلْنِيْ مِنَ الْمُتَطَهِّرِيْنَ.

ကိုယ်တော်မြတ် (ﷺ) က နေ့စဉ်ဝုဇူလုပ်သူကို အောက်ပါအတိုင်း ပုံဆောင်ချက်ပေးထားသည်။ အိမ်တံခါးဝတွင် ကြည်လင်သန့်ပြန့်သောရေချောင်းတစ်ချောင်းစီးဆင်းနေရာ နေ့စဉ်ထိုရေချောင်းမှ ငါးကြိမ်

ရေချိုးသူပေါ်တွင် အညစ်အကြေးများမကျန်ရှိသကဲ့သို့ ဝိုဇူရေသန့်စင်သူ၏ခန္ဓာကိုယ်တွင်လည်း အညစ်အကြေးများ ကျန်ရှိမည်မဟုတ်ပေ။

အရှင်မြတ် ကျွန်ုပ်တို့အားလုံးကို အာရုံအပြည့်ဖြင့် ဝိုဇူပြုလုပ်နိုင်သည့် စွမ်းအားချီးမြှင့်ပေးသနားတော်မူပါစေ။ ဝိုဇူဖြင့် ရုပ်ပိုင်း၊ နာမ်ပိုင်း နှစ်ခုစလုံးအား သန့်ပြန့်စင်ကြယ်မှုချီးမြှင့်တော်မူစေ။ အာမီးန်



## (၃၁) မိစ်ဝါးက် (တံပူစားခြင်း)၏ အကျိုးကျေးဇူး

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«لَوْلاَ أَنْ أَشُقَّ عَلَى أُمَّتِيْ أَوْ عَلَى النَّاسِ لَأَمَرْتُهُمْ بِالسِّوَاكِ مَعَ كُلِّ صَلاَةٍ».

(رواه البخاري في كتاب الجمعة، باب السواك يوم الجمعة).

“ငါကိုယ်တော်သည် အွမ္မသ်ဒုက္ခရောက်မည်ကို မစိုးရိမ်ရပါက နမားဇ် အချိန်တိုင်းတွင် မိစ်ဝါးက်သုံးရန်အမိန့်ရှိတော်မူမည်။”

### ရှင်းလင်းချက်

ရုပ်နာမ်အားသန့်ပြန့်စင်ကြယ်မှုပြုရာတွင် အသုံးပြုရန် ကိုယ်တော် (ﷺ)အသိပေးတိုက်တွန်းခဲ့သည့်အရာများတွင် မိစ်ဝါးက် သုံးခြင်းလည်း ပါဝင်သည်။ မိစ်ဝါးက်ပြုခြင်း၏ အကျိုးကျေးဇူးများ သီးသန့်ရှိနေသော်ငြားလည်း အစ္စလာမ့်ရှုထောင့်အရ သုံးသပ်ကြည့်မည်ဆိုပါက မိစ်ဝါးက် သုံးခြင်းသည် အရှင်မြတ်ကို ကြေနပ်နှစ်သက်စေသော လုပ်ရပ်တစ်ခု ဖြစ်သည်။ ကိုယ်တော်မြတ်(ﷺ)က "မိစ်ဝါးက်အသုံးပြုခြင်းသည် အာခံတွင်းကို သန့်ပြန့်စင်ကြယ်စေပြီး အရှင်မြတ်အားနှစ်သက်စေသည်" ဟု မိန့်ထားသည်။

အချို့သော လုပ်ရပ်များတွင် လောကီလောကုတ္တရာ အကျိုးများ တိမ်မြုတ်နေသည်။ ယင်းတို့တွင် မိစ်ဝါးက်လည်းအပါအဝင်ဖြစ်သည်။ မိစ်ဝါးက်အသုံးပြုခြင်းဖြင့် လောကီတွင်ချက်ချင်းလက်ငင်း ရရှိလာမည့် အကျိုးမှာ ခံတွင်းသန့်ပြန့်သွားခြင်း၊ ပါးစပ်တွင်းဒုက္ခဖြစ်စေမည့်အရာ

များထွက်သွားခြင်းတို့ဖြစ်သည်။ တမလွန်တွင်ရရှိမည့် အကျိုးမှာ အရှင်မြတ်၏ကြေနပ်နှစ်သက်မှုရရန်အကြောင်းခံဖြစ်ခြင်းပင်။

ဟဒီးဆ်တော်များတွင် လာရှိသည်မှာကိုယ်တော်မြတ် (ﷺ) သည် အိပ်ယာမှထချိန် အထူးသဖြင့် သဟဂျ်ဂျုဒ်အတွက်ထတော်မူချိန် မိစ်ဝါးက်အသုံးပြုလေ့ရှိ သည်။ ထို့အတူ အိမ်သို့ဝင်သောအခါတွင်လည်း ဦးစွာ မိစ်ဝါးက်ပြုလေ့ရှိသည်။

ဖော်ပြပါ ဟဒီးဆ်တော်များကို ထောက်ရှုပြီး သာသနာ့ပညာရှင်များက အောက်ပါအတိုင်းသုံးသပ်ထားကြသည်။ မိစ်ဝါးက်ပြုခြင်းသည် အချိန်တိုင်းတွင် အကျိုးဆဝါးဗ်ရရှိစေပြီး (၅) ခုသောအခြေအနေမျိုးတွင် မိစ်ဝါးက်ကိုအထူးတလည်အသုံးပြုရမည်။

(၁) ဝုဇူပြုချိန်

(၂) နမားဇ်ချိန် (နမားဇ်နှင့်ဝုဇူကြား အချိန်ကြာမြင့်သွားသောအခါ)

(၃) ကုရ်အာန် သေလာဝသ် မပြုမီအလျင်

(၄) အိမ်ယာမှနိုးထစဉ်

(၅) အာခံတွင်းနံ့ဆိုးသောအခါ၊ သွားရောင်များပြောင်းသွားသည့်အခါ မိစ်ဝါးပြုခြင်းတို့ဖြစ်ပါသည်။

မိစ်ဝါးက်ပြုခြင်းသည် ကိုယ်တော်မြတ် (ﷺ) ၏ချစ်လှစွာသော စွန္နသ်တော်တစ်ရပ်ဖြစ်သော်လည်း ယနေ့ခေတ်တွင် လူအများစုသည် ဤစွန္နသ်တော်၏ အလင်းဖြင့်ကင်းကွာနေကြသည်မှာ ဝမ်းနည်းစရာပင်။

အရှင်မြတ်ဤမျှတန်ဖိုးကြီးမားလှသည့် စွန္နသ်တော်အား ကိုယ်တိုင် အမလ်လုပ်နိုင်စွမ်းချီးမြှင့်ပေးပြီး အခြားသူများကိုလည်း ဤစွန္နသ် တော်ဘက်သို့ ဖိတ်ခေါ်နိုင်စွမ်းချီးမြှင့်တော်မူပါစေ။



## (၃၂) နမားဇ်၏ အရေးကြီးပုံ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«إِنَّ أَوَّلَ مَا يُحَاسَبُ بِهِ الْعَبْدُ يَوْمَ الْقِيَامَةِ مِنْ عَمَلِهِ صَلَاتُهُ».

(رواه الترمذي في أبواب الصلاة، وأبو داود في كتاب الصلاة)

"ကေယာမသ်နေ့တွင် လူသား၏ လုပ်ဆောင်ချက်များအနက် နမားဇ်နှင့်စပ်လျဉ်း၍ ဦးစွာ မေးမြန်းစစ်ကြောခြင်းခံရမည်ဖြစ်သည်။"

**ရှင်းလင်းချက်**

နမားဇ်သည် လူသားတို့အပေါ် အရှင်မြတ်သတ်မှတ်ပြဋ္ဌာန်းပေးထားသည့်အကြီးဆုံးတာဝန်တစ်ရပ်ဖြစ်သည်။ သာသနာ၏ မဏ္ဍိုင်တစ်ရပ်လည်းဖြစ်သည်။ မွတ်စ်လင်မ်နှင့်ကာဖိရ်ကြား ခြားနားပေးသည့် အကြောင်းခံလည်းဖြစ်သည်။ အောင်မြင်ခြင်း၏ စည်းကမ်းတစ်ရပ်လည်းဖြစ်သည်။ အရှင်မြတ်သည် နမားဇ်အား တရားလမ်းမှန်နှင့်သက္ကဝါတရားအတွက် အခြေခံစည်းတစ်ခုအဖြစ်သတ်မှတ်ထားသည်။

ထို့ကြောင့် ကေယာမသ်နေ့တွင် ဦးစွာနမားဇ်နှင့်ပတ်သက်ပြီးစစ်ကြောခြင်းဖြစ်သည်။ နမားဇ်သည် လွပ်လပ်သူ၊ ကျွန်၊ သူဌေး၊ ဆင်းရဲသား၊ မကျန်းမာသူ၊ ခရီးသည်နှင့် အိမ်တွင်နေထိုင်သူ စသည့်အလွှာအသီးသီးမှ လူသားများအပေါ်တွင် အချိန်တိုင်း၊ အခြေအနေတိုင်းတွင် မလုပ်မနေရ တာဝန်တစ်ရပ်အဖြစ်ရှိနေမည်။ အရွယ်ရောက်သည့် မည်သူ့ကိုမှ ခွင့်လွှတ်ကန့်သတ်ပေးထားခြင်းမရှိပါ။ ယုတ်စွအဆုံး စစ်ဖြစ်နေချိန်တွင်လည်းနမားဇ်ဖတ်ရန် အရေးကြီးနေမည်သာဖြစ်သည်။ စစ်

မက်ဖြစ်ပွားချိန်ဖတ်သည့် နမားဇ်ကို صلاة الخوف (စိုးရိမ်ချိန်ဝတ်ပြုရသောနမားဇ်)ဟုပင် အမည်ပေးထားသည်။

အမှန်မှာ နမားဇ်သည် လူ့ဗီဇ၊ လူ့သဘာဝ၏ တောင်းဆိုချက်များကိုဖြည့်ဆည်းပေးခြင်းဖြစ်သည်။ ထိုတောင်းဆိုချက်ကို ချည့်နဲ့ခြင်း၊ လိုအပ်ချက်ကိုချုပြခြင်း၊ အရှင်မြတ်နှင့်နှစ်ဦးတည်း တီးတိုးစွာရင်ဖွင့်ခြင်း၊ ကျေးကျွန်ပီသခြင်း၊ ခယရိုကျိုးခြင်း၊ ချိုးနှိမ်ခြင်းဆိုင်ရာစိတ်ဓါတ်ဟုလည်းခေါ်ဆိုနိုင်သည်။ နမားဇ်သည် ဖန်ဆင်းရှင်နှင့်ဖန်ဆင်းခံကြားသွယ်တန်းနေသည့် ခိုင်မာသောကြိုးတစ်ချောင်းလည်းဖြစ်သည်။

မည်သူမဆို ထိုကြိုးကို ခိုင်မာစွာ ဆုပ်ကိုင်ထားပြီး မိမိလုံခြုံရေးအတွက် အာမခံချက်ရယူနိုင်သည်။ နမားဇ်သည် ဝိဉာဉ်၏အာဟာရ၊ နာကျင်မှုအတွက်အမြိုက်ဆေး၊ ဒဏ်ရာအတွက်ဒဏ်ကြေဆေး၊ ရောဂါများအတွက်ပျောက်ကင်းမှုပေးနိုင်သော ဆေးဝါးတစ်လက်လည်းဖြစ်သည်။ လူသားအတွက်အကြီးဆုံးလက်နက်၊ မှီခိုအားထားရာမဏ္ဍိုင်တစ်ရပ်လည်းဖြစ်သည်။

ထို့ကြောင့်အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်တွင် "အို - အီမာန်သက်ဝင်ယုံကြည်ထားကြသူအပေါင်းတို့၊ အသင်တို့သည် နမားဇ်၊ (ဆွဗရ်)ဒုက္ခပေါ်ကြံ့ခိုင်ခြင်းများဖြင့် အရှင်မြတ်ထံမှအကူအညီတောင်းခံကြကုန်" ဟုမိန့်ဆိုထားသည်။

"ငါကိုယ်တော်၏ မျက်လုံးအေးမြမှုသည် နမားဇ်တွင်ရှိသည်" ဟူသော ကိုယ်တော်၏မိန့်ကြားချက်သည်လည်း အထက်ပါအာယသ်တော်ဘက်သို့ ညွှန်းဆိုနေသည်။

နမားဇ်စွန့်လွှတ်သူသည် ကြီးကျယ်သော စည်းစိမ်တစ်ခုမှ လက်မဲ့ဖြစ်နေပြီး အရှင်မြတ်၏ကူညီစောင်မမှုမှ ဝေးနေရသူသာဖြစ်သည်။

ဤမျှကြီးကျယ်လှသည့် တာဝန်တစ်ရပ်ကိုမေ့လျော့ပေါ့ဆနေသည့် မွတ်စ်လင်မ်အများစု၏ အခြေအနေမှာ ဝမ်းနည်းဖွယ်ရာပင်။

ဤပထမဆုံး ဖရ်ဇ်တာဝန်ကို မေ့လျော့ပျက်ကွက်နေသူများကို သတိပေးရန်မှာ ကျွန်ုပ်တို့အတွက်အရေးကြီးလှသော သာသနာပေးတာဝန်တစ်ရပ်ဖြစ်သည်။ မိမိတို့အရပ်ဒေသတွင် နမားဇ်စွန့်လွှတ်သူတစ်ဦးမှ မရှိစေရန်ကြိုးပမ်းနေရမည်ဖြစ်သည်။ အရှင်မြတ် ကျွန်ုပ်တို့အားလုံးအား ဤပထမဆုံး ဖရ်ဇ်တာဝန်ကို အလေးထားဆောင်ရွက်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။



## (၃၃) သဟဂျ်ဂျုဒ် နမားဇ်

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«أَفْضَلُ الصَّلَاةِ، بَعْدَ الْفَرِيْضَةِ، صَلَاةُ اللَّيْلِ».

(رواه مسلم في كتاب الصيام، باب فضل صوم المحرم).

" ဖရ်ဇ်နမားဇ်များနောက် အမြတ်ဆုံးနမားဇ်မှာ သဟဂျ်ဂျုဒ်နမားဇ် ပင်ဖြစ်သည်။"

## ရှင်းလင်းချက်

ဝိညာဉ်အင်အားဖြစ်စေမည့်အကောင်းဆုံးအကြောင်းခံ၊ နှလုံးသားကိုနွေးထွေးမှုရရှိစေမည့် အထိရောက်ဆုံးနည်းလမ်းမှာ ညတွင်ထ၍ သဟဂျ်ဂျုဒ်နမားဇ် ဝတ်ပြုခြင်းဖြစ်သည်။

ယင်းကိစ္စနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင်လည်း ကြိမ်ဖန်များစွာ တိုက်တွန်းနှိုးဆော်ချက်များလာရှိထားသည်။ သဟဂျ်ဂျုဒ်ဖတ်သူများကိုချီးကျူးထားသည့် ကုရ်အာန်ကျမ်းလာ အာယသ်တော်များကို ကြည့်ခြင်းဖြင့်လည်း သဟဂျ်ဂျုဒ်နမားဇ်၏တမူထူးသော ထွဋ်မြတ်မှုများကိုသိရှိနိုင်သည်။ ကိုယ်တော်မြတ် (ﷺ) သည် ခရီးတွင်ဖြစ်စေ၊ အိမ်တွင်ဖြစ်စေ သဟဂျ်ဂျုဒ်နမားဇ်ကို စွဲမြဲစွာဖတ်တော်မူခဲ့သည်။ အိပ်ချင်လွန်း၍သော်လည်းကောင်း၊ ကျန်းမာရေးမကောင်းသည့်အတွက်သော်လည်းကောင်း ညဉ့်တွင်သဟဂျ်ဂျုဒ်မဖတ်လိုက်ရပါမူ နေ့တွင် (၁၂) ရကအသ် ပြန်ဖတ်လေ့ရှိခဲ့သည်။

ဆွဟာဗာသာဝကတို့ထံတွင်လည်း သဟာဂျ်ဂ္ဂါဒ်နမားဇ်ကို အထူးတလည် ဖတ်ရွတ်ကြသည့်ဓလေ့ရှိခဲ့သည်။ သဟာဂျ်ဂ္ဂါဒ်သည် ခေတ်တိုင်း၊ လူ့အလွှာတိုင်းတွင် သူတော်စင်များ၊ အရှင့်အချစ်တော်သာသနာ့ပညာရှင်များ၊ သာသနာရေးကြိုးပမ်းသူများ၊ စိတ်စေတနာဖြူစင်သူများနှင့် အရှင့်ဘက်သို့ဖိတ်ခေါ်သူများ၏အသဲစွဲအမလ်တစ်ရပ်လည်းဖြစ်သည်။ ၎င်းတို့သည် တစ်နေ့တာကြိုးပမ်းခဲ့ပြီးပင်ပန်းနေသည့် ခန္ဓာကို အားသစ်မာန်သစ်များ လောင်းပေးရန် လိုအပ်နေမှုအား သဟာဂျ်ဂ္ဂါဒ်နမားဇ်ဖတ်ခြင်းဖြင့်ဖြည့်စွက်ကြသည်။ ဤသည်ပင် အွမ္မသ်အတွက်ရွှေစံချိန်၊ ဘဝအမေ့ာများအတွက် လမ်းညွှန်ချက်ကောင်းတစ်ရပ်ဖြစ်ချေသည်။

ယနေ့ခေတ်တွင်လည်း ဤလမ်းညွှန်ချက်များသာ လမ်းပြမီးအိမ်အဖြစ် ဦးဆောင်ရပ်တည်နေမည်ဖြစ်သည်။

အထူးသဖြင့် သာသနာ့ပညာရှင်များနှင့် အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သူများသည် သဟာဂျ်ဂ္ဂါဒ်နမားဇ်ကိုဂရုတစိုက်ဝတ်ပြုနေသင့်သည်။ သို့မှသာ မိမိ၏ဖိတ်ခေါ်မှုတွင် ထိရောက်မှု၊ မိမိစကားတွင် စူးရှမှုများဖြစ်ပေါ်နေပေမည်။ နဗီအမွေပေးခဲ့သောတာဝန်ကိုထမ်းဆောင်ရာတွင် လွယ်ကူမှုလည်းရရှိလာမည်။ သဟာဂျ်ဂ္ဂါဒ်နမားဇ်ဖတ်သူ၏ရပ်ပိုင်းတွင်ပင် သန်းပေါင်းများစွာသော လူထုကြီး တရားလမ်းမှန်ရရှိရေးတွင် အကြောင်းခံဖြစ်မည့်သီးသန့်ဆွဲဆောင်မှုတစ်ရပ်လည်းပေါ်လွင်နေမည်။

သဟာဂျ်ဂ္ဂါဒ်နမားဇ်ဝတ်ပြုရာတွင် ပြစားလိုသည့် အရိပ်အရောင်ပင်မရှိစေရန်ကြိုးစားရမည်။ လူသူကင်းမဲ့ပြီး တိတ်ဆိတ်နေသော ညဉ့်ယံ

တွင် အရှင်မြတ်နှင့်မိမိကြား မည်သည့်အရာကိုမှ ကာဆီးခွင့် မပေးသင့်ပါ။

အရှင်မြတ်ကျွန်ုပ်တို့အား စစ်မှန်သည့်အခ်လားစ္စ်ဖြင့် သဟာဗျ်ဂျ်ဒ်နမားဇ် ဝတ်ပြုနိုင်စွမ်းချီးမြှင့်တော်မူပါစေ။ (အာမီးန်)



## (၃၄) သန့်ရှင်းစင်ကြယ်သောဗလီများနှင့် အကျည်းတန်သော ဈေးများ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«أَحَبُّ الْبِلَادِ إِلَى اللهِ مَسَاجِدُهَا، وَأَبْغَضُ الْبِلَادِ إِلَى اللهِ أَسْوَاقُهَا».
(رواه مسلم في كتاب المساجد ومواضع الصلاة، باب فضل الجلوس في الصلاة).

" လောကရှိ နေရာများအနက် အရှင်မြတ် အနှစ်သက်ဆုံးနေရာမှာ ဗလီဝတ်ကျောင်းတော်များဖြစ်ပြီး၊ မနှစ်သက်ဆုံးသော နေရာများမှာ ဈေးများပင်ဖြစ်သည်။"

**ရှင်းလင်းချက်**

မြေပထဝီရှိနေရာများတွင် အရှင်မြတ်အနှစ်သက်ဆုံးမှာ ဗလီဝတ်ကျောင်းတော်များသာဖြစ်သည်။ အကြောင်းမှာ ဗလီဝတ်ကျောင်းတော်များသည် အရှင်မြတ်နှင့် တိုက်ရိုက်ဆက်နွယ်နေသောကြောင့်ပင်တည်း။ ကျမ်းတော်မြတ်ကုရ်အာန်တွင် ဗလီဝတ်ကျောင်းတော်များသည် အရှင်မြတ်၏သီးသန့်နေရာများဖြစ်သောကြောင့် အသင်တို့သည် အရှင်မြတ်နှင့်(ယှဉ်တွဲ၍) မည်သည့်အရာကိုမျှ မတသကြလေနှင့်(ဟု အမိန့်ရှိထားပေသည်။

ဗလီဝတ်ကျောင်းတော်သည်သာ အရှင်မြတ်၏ကြီးကျယ်မှုကို ထင်ရှားစွာ ပြသနိုင်သည့်ပြယုဂ်တစ်ခုဖြစ်သည်။ ဤနေရာတွင် မည်သည့်အဖန်ဆင်းခံအတွက်မျှ ပိုမိုဂုဏ်ရှိခြင်း၊ ထူးကဲခြင်းများမရှိပါ။ ဤနေရာတွင် သခင်နှင့်ကျွန်၊ ဘုရင်နှင့်တိုင်းသူပြည်သား၊ သူဌေးနှင့် သူဆင်းရဲ အားလုံးတို့ကိုတပြေးညီတွေ့မြင်ရသည်။

ဤနေရာတွင် ရိုးသားခြင်းနှင့်တည်ငြိမ်ခြင်း၊ စိတ်ချမ်းသားခြင်းနှင့် စိတ်သန့်ခြင်းများကွန့်မြူးနေသည်။ ဝိညာဉ်လန်းဆန်းတက်ကြွပြီး စိတ်ငြိမ်ရပ်ဝန်းလည်းဖြစ်သည်။ ဤနေရာတွင် တစ်ပါတည်းသောအရှင်အား ကိုးကွယ်ခြင်း၏ ထင်ရှားသည့်အထိမ်းအမှတ်များကို ပေါ်လွင်စွာ တွေ့မြင်ရပြီး အခြားသူတို့၏ ဝတ်ပြုရာနေရာများဖြင့် မတူဘဲ ကွဲပြားခြားနားနေသည်။

ဤနေရာသည် အရှင့်ကရုဏာတော်များကျရောက်ပြီး မင်္ဂလာမိုးများရွာသွန်းဖြိုးသည့်နေရာပင်ဖြစ်သည်။ အကောင်းဟူသမျှ၏ ရေသောက်မြစ်လည်းဖြစ်သည်။ မွတ်စ်လင်မ်တို့အဖို့ သာသနာ့ပညာ သင်ပေးသင်ယူခြင်း၊ စာရိတ္တများပြုပြင်ခြင်း၊ ဝိညာဉ်ဆိုင်ရာလမ်းညွှန်ချက်များရယူရာ ဌာနချုပ်လည်းဖြစ်သည်။

စစ်မှန်သောအသိပညာ၊ တောက်ပသောတရားလမ်းမှန်၊ မွန်ရည်သောစာရိတ္တလမ်းညွှန်တရားများ၊ သာသနာ့ကြိုးပမ်းမှုဆိုင်ရာ လှုပ်ရှားမှုတို့သည်လည်း ဤဌာနချုပ်မှပင်မွေးဖွားလာခဲ့သည်မဟုတ်ပါလော။

ယနေ့ခေတ်တွင်လည်း မွတ်စ်လင်မ်တိုင်းသည် ဗလီဝတ်ကျောင်းတော်များနှင့် ခိုင်မာစွာအဆက်အသွယ်ထားနေရမည်။ ကျွန်ုပ်တို့အစ္စလာမ့်ရပ်ဝန်းအတွက် အခရာကျသည့် ဌာနချုပ်အဖြစ် ဗလီဝတ်ကျောင်းတော်များကို ပြန်လည်ပြုလုပ်ရန်လိုအပ်သည်။

ဤဟာဒီးဆ်တော်၏ဒုတိယအပိုင်းတွင် ဗလီဝတ်ကျောင်းတော်များသည် အရှင်မြတ်ထံတွင်အနှစ်သက်ဆုံးဖြစ်ခြင်းနှင့် ဆန့်ကျင်ဘက်

အနေနှင့် ဈေးများသည် အရှင်မြတ်မနှစ်သက်ဆုံးသော နေရာများသာ ဖြစ်သည်။ များသောအားဖြင့် ဈေးတွင် အရှက်မဲ့သည့်အမှုကိစ္စများ၊ မလိုအပ်သည့်ဆင်မြန်းချယ်သမှုများကို အမြောက်အမြားတွေ့ရတတ်သည်။ ထိုနေရာများတွင် ရှိုင်သွာန်အတွက် လှည့်ဖြားရန် အကောင်းဆုံး အခွင့်အလမ်းများရရှိသည်။ ထို့ကြောင့်ဈေးများကို ရှိုင်သွာန်မိစ္ဆာ အပေါင်း၏ဌာနချုပ်ဟုလည်း ခေါ်ဝေါ်ကြသည်။

အထူးသဖြင့်လက်ရှိကာလရှိ ဈေးများတွင် မကောင်းမှုဟူသမျှ လိုလိုပင် တွေ့မြင်နေရသည်မဟုတ်ပါလော။

ဤဟာဒီးဆ်တော်၏မီးမောင်းထိုးပြချက်အရမွတ်စ်လင်မ်တိုင်းသည် မိမိကိုယ်ကိုဘာဝ၏ကိစ္စအဝဝအတွက် ဌာနချုပ်ဖြစ်သော ဗလီဝတ်ကျောင်းတော်ဖြင့် အဆက်အသွယ်ခိုင်မာစွာထားရှိရမည်။ သို့မှသာ ကေယာမသ်နေ့တွင်အရှင့်အရ်ရှ်ပလ္လင်အရိပ်အောက်တွင် စံမြန်းကြရမည့် (၇)ဦးစာရင်းတွင် ပါဝင်နိုင်မည်ဖြစ်သည်။ အလားတူဗလီနှင့် အဆက်အသွယ် ထားရှိသူတစ်ဦးအဖို့ ဈေးများတွင် အချိန်ပြည့်သွားလာနေခြင်း၊ စိတ်စွဲလမ်းနေခြင်းသည်လည်း မသင့်တော်ပါ။ လိုအပ်ချက်ကြောင့် လိုအပ်သလောက်သာ သွားခြင်းကိုမူ ရှရီအသ်က ခွင့်ပြုထားပေသည်။

၀၀၀

## (၃၅) ဂျမာအသ်ဖြင့် ဝတ်ပြုခြင်း၏ အကျိုးကျေးဇူး

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«صَلَاةُ الْجَمَاعَةِ تَعْدِلُ خَمْسًا وَعِشْرِيْنَ دَرَجَةً مِنْ صَلَاةِ الْفَذِّ».

(رواه مسلم في كتاب الأذان، ومسلم في كتاب المساجد، باب فضل صلاة الجماعة).

" ဂျမာအသ်နှင့်ဝတ်ပြုသောနမားဇ်သည် တစ်ဦးတည်းဝတ်ပြုသော နမားဇ်ထက် (၂၅) ဆသာမြတ်သည်။"

### ရှင်းလင်းချက်

ဖရ်ဇ်နမားဇ်များကို ဂျမာအသ်ဖြင့်ဝတ်ပြုရန် အမိန့်တော်လာရှိထားသည်။ နမားဇ်ကို ဂျမာအသ်ဖြင့်ဝတ်ပြုခြင်းသည် အစ္စလာမ့်အနှစ်သာရတစ်ရပ်ဖြစ်သည်။ ဤအတွက်ကြောင့် ကိုယ်တော်သခင် (ﷺ)နှင့် ဆွဟာဗာအပေါင်းတို့သည် ဂျမာအသ်ဖြင့်ဝတ်ပြုခြင်းကို နမားဇ်၏ အစိတ်အပိုင်းတစ်ခုအဖြစ်သတ်မှတ်ကာ ဂရုစိုက်လေ့ရှိကြသည်။ ကိုယ်တော်မြတ် (ﷺ)သည် ကွယ်လွန်ရာပါရောဂါဖြစ်နေချိန်တွင်လည်း ဂျမာအသ်ကိုမစွန့်လွှတ်ခဲ့ပါ။ ဆွဟာဗာတို့၏ဂျမာအသ်ဖြင့်ဝတ်ပြုခြင်းကို ဟဇရသ်အိဗ်နေ့မတ်စ်အူးဒ်သခင်၏ အောက်ပါဟဒီးဆ်တော်ဖြင့်ခန့်မှန်းနိုင်သည်။ "နှစ်ယောက်တွဲ၍ လမ်းလျှောက်နိုင်သူများကိုလည်းတွဲ၍ ဂျမာအသ်ဖြင့်ဝတ်ပြုရန်ခေါ်ဆောင်လာလေ့ရှိသည်။"

ကိုယ်တော်မြတ် ﷺသည် ဂျမာအသ်ကို စွန့်လွှတ်ခြင်းပေါ် ပြင်းထန်စွာ မိန့်ကြားလေ့ရှိသည်။ ဆင့်ပြန်ချက်တစ်ရပ်တွင် "ငါကိုယ်တော်သည် တစ်ဦးတစ်ယောက်အား နမားဇ်ရှေ့ဆောင်ပြုရန် လွှဲအပ်ခဲ့ပြီး

အခြားတစ်ဦးကို ထင်းများစုပေးရန်အမိန့်ရှိတော်မူမည်။ ထို့နောက် ဂျမာအသ်ဖြင့် ဝတ်မပြုသူများအိမ်သို့သွားပြီး မီးရှို့ပစ်ရန် ဆန္ဒထားတော်မူသည်။”

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ဂျမာအသ်ဖြင့်ဝတ်ပြုခြင်းတွင်အနှစ်သာရများ၊ အကျိုးတရား အမြောက်အမြား ထည့်ပေးထားသည်။ ကိုယ်ကျင့်တရားပိုင်းဆိုင်ရာ အကျိုးတရားများ၊ အရှင့်ကရုဏာမိုးများရွာသွန်းဖြိုးခြင်း၊ အရှင့်ခပ်ဝပ်မှုပြုရာတွင် လွယ်ကူလာခြင်း၊ခဝပ်မှုပြုရာတွင်သူ့ထက်ငါသာရန် ပြိုင်ဆိုင်လိုစိတ်များပေါက်ဖွားလာသည်။ ထို့အတူနမားဇ်၏ အမိန့်ပညတ်ချက်များ၊ စည်းကမ်းများကိုလည်း သင်ယူလိုစိတ်ဖြစ်ပေါ်လာမည်။ ဂျမာသ်ဖြင့်ဝတ်ပြုသူများသာရရှိမည့် အခြားသော အကျိုးကျေးဇူးများလည်း ရှိပါသေးသည်။



## (၃၆) ပထမလိုင်းတွင် နမားဇ်ဝတ်ပြုခြင်း၏ အကျိုးကျေးဇူး

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«خَيْرُ صُفُوْفِ الرِّجَالِ أَوَّلُهَا».

(رواه مسلم في كتاب الصلاة، باب تسوية الصفوف).

"အမျိုးသားတို့၏ နမားဇ်လိုင်းများအနက် အမြတ်ဆုံးမှာပထမဆုံး လိုင်းဖြစ်သည်။"

### ရှင်းလင်းချက်

ဟဒီးဆ်တော်များအရ ပထမဆုံးလိုင်းရှိ နမာဇီများသည် အရှင့်ရဟ်မသ်၊ ကောင်းကင်တမန်တို့၏ဒိုအာများနှင့် အထိုက်သက်ဆုံး ပုဂ္ဂိုလ်များသာဖြစ်သည်ဟု သိရသည်။ ဒုတိယလိုင်းမှ နမာဇီများသည်လည်း အထက်ပါဒိုအာများ၊ ရဟ်မသ်များတွင် ပါဝင်နေသော်လည်း ဒုတိယအဆင့်တွင်သာရှိပေသည်။ အရှင့်ကရုဏာကို လိုလားတက်မက်သူသည် တတ်စွမ်းနိုင်သရွေ့ ပထမလိုင်းတွင်သာ နမားဇ်ဖတ်ရန်ကြိုးစားနေရမည်။ ထိုအခွင့်ထူးကို ပိုင်ဆိုင်နိုင်ရန် ဗလီသို့စောလျင်စွာ သွားနိုင်မှဖြစ်မည်။ ဗိုခါရီနှင့်မွတ်စ်လင်မ်ကျမ်းလာ ဆင့်ပြန်ချက်တစ်ခုတွင် ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်။ "ပထမလိုင်းတွင် နမားဇ်ဝတ်ပြုခြင်းကြောင့် ရရှိမည့် အကျိုးကျေးဇူးကို လူတို့သိရှိကြပါမူ အလုအယက်ထိုအကျိုးကို ရယူလိုကြမည်ဖြစ်သောကြောင့် မဲခွဲဆုံးဖြတ်ပေးရလိမ့်မည်ဖြစ်သည်။"

ဤဆဝါးဗ်ကို ရယူလိုစိတ်ဖြင့် အခြားသူများကို ဒုက္ခပေးခြင်းမပြု အပ်ပေ။ ပထမလိုင်းတွင် နမားဇ်ဝတ်ပြုခြင်းမှာ အကျိုးရရှိစေမည့် ကောင်းသောအလုပ်တစ်ခုသာဖြစ်သည်။ အခြားသူများကိုဒုက္ခပေးခြင်း မှာမူဟရာမ်(မပြုပိုင်သော)လုပ်ရပ်ဖြစ်သည်။ ကောင်းသောအလုပ်တစ် ခုကို ရယူရန်ဟရာမ်ကို ကျူးလွန်ခြင်းမှာ မှားယွင်းသော ဟရာမ် နည်းလမ်းသာဖြစ်သည်။ ထို့ကြောင့်စောလျင်စွာ ဗလီသို့ရောက်ရန် ဂရု စိုက်ရမည်။ အဇာန်သံကြားသည်နှင့်တစ်ပြိုင်နက် မုအ်ဇင်န်ကို အဖြေ ပေးရင်း ဗလီဘက်သို့ ဦးတည်လာရမည်ဖြစ်သည်။ သို့မှသာ ပထမ လိုင်းတွင် နမားဇ်ဝတ်ပြုနိုင်မည်။

အာအေရှာ သခင်မက အဇာန်သံကြားချိန် ကိုယ်တော်မြတ် (ﷺ) ၏အခြေအနေကို အောက်ပါအတိုင်း တင်ပြထားပေသည်။ ကိုယ်တော် သခင် (ﷺ) သည် ကျွန်ုပ်တို့နှင့်ကိစ္စတစ်ခုခုတွင်မွေ့လျော်နေစဉ်အဇာန် သံကြားလိုက်ပါက ထိုအလုပ်နှင့်လုံးဝမဆိုင်တော့ဘိအလား ဥပေက္ခာ ပြုကာချက်ချင်း မတ်တပ်ရပ်ပြီး ဗလီဝတ်ကျောင်းတော်သို့ ကြွမြန်း သွားတော်မူလေ့ရှိသည်။

အရှင်မြတ်ကျွန်ုပ်တို့အားလုံးအား ပထမလိုင်းတွင် နမားဇ်ဝတ်ပြု နိုင်ရန် ပထမအချိန်တွင် ဗလီသို့ရောက်နိုင်စွမ်း ချီးမြှင့်ပေးသနားတော် မူပါ။ အာမီးန်။

❍❍❍

## (၃၇) ဒိုအာ၏ အရေးကြီးပုံ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«لَيْسَ شَيْءٌ أَكْرَمَ عَلَى اللهِ مِنَ الدُّعَاءِ».

(رواه الترمذي: باب ما جاء في فضل الدعاء).

"အရှင်မြတ်ထံတွင် ဒိုအာပြုခြင်းထက် သာပိုမြင့်မြတ်သည့်ကိစ္စ မရှိပေ။"

### ရှင်းလင်းချက်

အရှင်မြတ်ထံတွင် ကျေးကျွန်၏ကျွန်ပီသခြင်းသည် နှစ်သက်ဖွယ် အကောင်းဆုံးဖြစ်သည်။ ကျွန်ပီသရေးတွင် လူသားသည်မိမိမတတ်စွမ်း ကြောင်း၊ အရှင်မြတ်ကိုအမြဲလိုအပ်နေကြောင်း ခံစားမိနေသရွေ့အရှင် မြတ်ကလည်း ထိုကျေးကျွန်ကို ချစ်နေမည်ဖြစ်သည်။ အမှန်မှာ ဒိုအာ ပြုခြင်းသည်လည်း မိမိလိုအပ်ချက်များ၊ မတတ်စွမ်းနိုင်ခြင်းများကို အလုံးစုံ စိုးပိုင်တော်မူသောအရှင်မြတ်ထံတွင် ဖွင့်ဟတောင်းဆိုခြင်းဖြစ် သည်။ ဒိုအာပြုခြင်းသည် ကျေးကျွန်ပီသမှုကို ဖော်ထုတ်ရန်အတွက် အသက်ဖြစ်သည်။ ထို့ကြောင့် နှစ်ဘဝသခင် ကိုယ်တော်မြတ် (ﷺ) က "اَلدُّعَاءُ مُخُّ الْعِبَادَةِ" "(ဒိုအာပြုခြင်းသည် ခဝပ်ကိုးကွယ်ခြင်း၏ အမြူ တေဖြစ်သည်" ဟု မိန့်ကြားထားတော်မူသည်။

ကိုယ်တော်မြတ် (ﷺ) သည် အရေးကြီးသော အခါတိုင်းတွင် ဒိုအာ ကို ဂရုတစိုက် တောင်းခံလေ့ရှိသည်။ ဤသည် ပြည့်စုံကုံလုံသော နဗီ

ဖြစ်ခြင်းနှင့်အတူ ကျေးကျွန်ပီသကြောင်းကို ကိုယ်တော့်ဘက်မှ ထုတ်ဖော်ခြင်း တစ်မျိုးလည်းဖြစ်သည်။

အခြေအနေအရပ်ရပ်တွင် တောင်းခံရမည့် ဒိုအာအမျိုးမျိုးမှာ ကိုယ်တော်သခင်ထံမှ ဆင့်ပြန်ချက်များလာရှိထားသည်။ ထိုဒိုအာများကို တောင်းဆိုခြင်း၊ မိမိတို့လက်တွေ့ဘဝတွင် ဆင်မြန်းခြင်းမှာ မင်္ဂလာရှိလှသော လုပ်ရပ်ဖြစ်သည်။

ဒိုအာတောင်းဆိုသူ၏ ကျိုးနွံမှုနှင့်အညီ အရှင်မြတ်ကလည်းထိုသူ့ဒိုအာကို လက်ခံပေးသနားတော်မူသည်။ မည်သို့ပင်ဆိုစေကာမူ ဒိုအာပြုသူသည် ဘယ်သောအခါမှ လက်မဲ့မဖြစ်ပါ။ တောင်းသည့်အရာ ချက်ချင်းရသွားသည်မျိုးလည်းရှိသည်။ သို့မဟုတ်ဒိုအာပြုခြင်း၏အစားတွင် ဘေးဘလာတစ်ခု ဝေးကွာသွားသည်လည်းရှိတတ်သည်။ လောကတွင် မရရှိလျှင်လည်း ထိုဒိုအာ၏ အစားကို အာခိရသ်တွင်ရရှိမည်မှာ မြေကြီးလက်ခက်မလွဲပင်။ ကေယာမသ်နေ့တွင် ဒိုအာတောင်းခြင်းပေါ် အရှင်မြတ်ချီးမြှင့်မည့် အစားကိုကြည့်ပြီး လူသားက "ငါ့ဒိုအာတစ်ခုမှ လောကတွင်လက်ခံခြင်းမခံရလျှင် ကောင်းလေစွ" ဟုပင် တမ်းတမိလိမ့်မည်။

ဒိုအာအမြန်ဆုံးလက်ခံစေမည့် စည်းကမ်းချက်များမှာ အောက်ပါအတိုင်းဖြစ်သည်။ ဦးစွာ အရှင်မြတ်ကို ချီးမွမ်းထောပနာပြုရမည်။ ထို့နောက် ကိုယ်တော်မြတ် (ﷺ) ပေါ် ဒရူးဒ်မေတ္တာပို့သရမည်။ ထို့နောက်

မိမိအတွက်၊ မိမိနှင့်ပတ်သက်ဆက်နွယ်သူများအတွက်၊ မွတ်စ်လင်မ်ထု တစ်ရပ်လုံးအတွက်လည်း ထည့်သွင်းတောင်းခံပေးရမည်။

ဟဒီးဆ်တော်တစ်ရပ်တွင် “နောက်ကွယ်မှအခြားသူများအတွက် တောင်းခံပေးသော ဒိုအာများသည် မြန်မြန်လက်ခံခြင်းခံရသည်” ဟု လာရှိထားသည်။ ဒိုအာပြုစဉ် လက်မြှောက်ခြင်းမှာ သာပိုကောင်းမွန်သည်။ လက်မြှောက်လိုက်ခြင်းသည် မိမိ၏လိုအပ်ချက်ကို ဖော်ပြခြင်း၏လက္ခဏာတစ်ရပ်ဖြစ်သည်။ ဒိုအာတောင်းပြီးသောအခါ လက်နှစ်ဖက်ဖြင့်မျက်နှာကို ပွတ်သပ်လိုက်ရမည်။ ပြီးပြည့်စုံသောဒိုအာများကို တောင်းခံနိုင်ရန် ကြိုးစားရမည်။ ယုံကြည်မှုအပြည့်ဖြင့် ဒိုအာတောင်းခံရမည်။ အခက်အခက်ကြုံဆုံနေစဉ်တွင်လည်း အထူးဒိုအာတောင်းခံရမည်။ ချောင်လည်သောအခြေအနေတွင်လည်း ဒိုအာတောင်းခံနေရမည်။

ဒိုအာတောင်းခံရန် မေ့လျော့နေခြင်းသည် လက်လွတ်ဆုံးရှုံးမှုကြီးတစ်ရပ်ဖြစ်သည်။ ဒိုအာကို တစ်ဦးချင်းစီလည်း တောင်းခံနိုင်သည်။ လူစုလူဝေးဖြင့်လည်း တောင်းခံနိုင်သည်။ တိုးတိုးစွာလည်း တောင်းခံနိုင်သည်။ ကျယ်လောင်စွာဖြင့်လည်းတောင်းခံနိုင်သည်။ သို့သော် တစ်ဦးတည်း တိုးတိုးစွာ ဒိုအာတောင်းရန်ကြိုးစားနေရမည်။ ထိုအခြေအနေတွင် ပိုမိုအာရုံစိုက်နိုင်မည်ဖြစ်ပြီး ပြစားလိုစိတ်လည်း ကင်းဝေးမည်ဖြစ်သည်။

ဒိုအာလက်ခံသည့် အထူးအချိန်များကိုလည်း ဂရုစိုက်နေရမည်။ အထူးသဖြင့် သောကြာနေ့၊ သဟာဂျ်ဂျုဒ်အချိန်၊ အစွရ်နမားဇ်ပြီးမဂ်ရိဗ် ဝင်ခါနီးအချိန်တို့သည် ဒိုအာလက်ခံစေသည့် အထူးအချိန်များဖြစ်သည်။

ခရီးတွင်တောင်းသည့်ဒိုအာသည်လည်း အထူးလက်ခံခြင်းခံရမည်ဖြစ်ကြောင်းဟဒီးဆ်တော်များတွင်လာရှိသည်။အခြားသူများထံမှလည်း ဒိုအာပြုပေးပါရန် မေတ္တာရပ်ခံနေရမည့်အကြောင်း ဟဒီးဆ်တော်များတွင် အတိအလင်းလာရှိထားသည်။

ကိုယ်တော်မြတ် (ﷺ) တောင်းဆိုလေ့ရှိသော ပြည့်စုံလှသည့် ဒိုအာများကို မရရှိပါက နှုတ်တိုက်ကျက်မှတ်ထားရမည်။ ဤအကျိုးကျေးဇူးများကို ပြည့်စုံကုံလုံလှသည့် ဟဒီးဆ်တော်လာ ဒိုအာတစ်ခုဖြင့် အဆုံးသတ်လိုသည်။

ဟဇရသ်အဗူအုမာမဟ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်တို့သည် ကိုယ်တော်မြတ် (ﷺ) ထံအခစားဝင် လျှောက်ထားခဲ့သည်။ ကိုယ်တော်သခင် (ﷺ)သည် များစွာသော ဒိုအာများတောင်းဆိုခဲ့သည်။ သို့သော် ထိုဒိုအာများအနက် အများစုကို ကျွန်ုပ်တို့ မကျက်မှတ်နိုင်ခဲ့ပါ။ ထိုအခါ ကိုယ်တော်သခင် (ﷺ)က ငါကိုယ်တော် အသင်တို့အား ဒိုအာပေါင်းချုပ်တစ်ခု သင်ပေးရမည်လောဟုမိန့်တော်မူပြီး အောက်ပါဒိုအာကို သင်ကြားပေးတော်မူခဲ့သည်။

اَللَّهُمَّ إِنِّيْ أَسْأَلُكَ مِنْ خَيْرِ مَا سَأَلَكَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، وَأَعُوْذُ بِكَ مِنْ شَرِّ مَا اسْتَعَاذَكَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، وَأَنْتَ الْمُسْتَعَانُ، وَعَلَيْكَ الْبَلاَغُ، وَلاَ حَوْلَ وَلاَ قُوَّةَ إِلاَّ بِاللهِ.

"အိုအရှင်မြတ် ကျွန်တော်မျိုးသည် အရှင်မြတ်ထံမှ အရှင့်ချစ်နဗီ တောင်းခံခဲ့သည်များအနက် အကောင်းဆုံးကို တောင်းခံအပ်ပါသည်။ အရှင့်ချစ်နဗီခိုလှုံခွင့်တောင်းခံခဲ့သည့်အရာများအနက် အဆိုးဆုံးသော အရာများမှ အရှင့်ထံခိုလှုံခွင့်တောင်းခံပါသည်။ အရှင်မြတ်ထံမှသာ အကူအညီတောင်းခံခြင်းပြုပါသည်။ အရှင်မြတ်ပေါ်သာ အပြည့်အဝ ယုံပုံအားကိုးပါသည်။ စွမ်းအားဟူဟူသရွေ့တို့သည် အရှင်မြတ်ထံတွင်သာ ရှိတော်မူပါသည်။"

❍❍❍

## (၃၈) ရိုဇာဥပုသ်စောင့်ထိန်းခြင်း

عَنْ أَبِيْ هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «اَلصِّيَامُ جُنَّةٌ».

(رواه البخاري في كتاب الصوم: باب هل يقول: إني صائم، ومسلم في كتاب الصيام: باب فضل الصيام).

"ရိုဇာဥပုသ်စောင့်ထိန်းခြင်းသည် ဒိုင်းသဖွယ်ဖြစ်သည်။"

### ရှင်းလင်းချက်

ရိုဇာစောင့်ထိန်းခြင်းသည် အစ္စလာမ့်မဏ္ဍိုင်များအနက် တစ်ခုဖြစ်သည်။ အသိဉာဏ်ရှိပြီး အရွယ်ရောက်သည့် မွတ်စ်လင်မ်တိုင်းအပေါ် ရိုဇာထားရန် ဖရ်ဇ်မလုပ်မနေရတာဝန်အဖြစ် ပြဋ္ဌာန်းထားသည်။ ဤသို့ မလုပ်မနေရတာဝန်အဖြစ်ပြဋ္ဌာန်းရခြင်းမှာ လူ့စိတ်သည် စိတ်လိုရမ္မက်များနှင့်မကောင်းသောအကျင့်ဆိုးများ၏ ထောင်ချောက်မှလွတ်မြောက်ရန်ဖြစ်သည်။ လူသား၏ ရာဂရမ္မက်အင်အားစုများတွင် မျှတမှုဖြစ်လာစေရန်ဖြစ်သည်။ ထိုသို့ဖြင့် နစ်ဘဝ၏ နဖူးစာကံကောင်းခြင်းများကို ရရှိနိုင်ရန် မိမိနှလုံးသားအား သန့်ပြန့်စွာထားနိုင်မည်ဖြစ်သည်။

အစာငတ်၊ ရေငတ်ခံလိုက်ခြင်းကြောင့်စိတ်အလိုရမ္မက်၏တွန်းအားများလျော့ကျလာမည်။ စိတ်ရိုင်း၏လှုံ့ဆော်အားလျော့နည်းလာမည်။ ဆင်းရဲသားတို့၏ ဆာလောင်မွတ်သိပ်ခြင်းကိုလည်းစာနာထောက်ထားသနားတတ်လာမည်။ ရိုဇာထားခြင်းသည် ခန္ဓာတွင်းရှိုင်သွာန်မိစ္ဆာ၏ဝင်ရောက်ရာ လမ်းများကို ပိတ်ဆို့ပေးသည်။ လူ့ခန္ဓာကိုယ် အစိတ်

အပိုင်းများကို လောကီ၊ လောကုတ္တရာနှစ်ဘဝလုံးတွင် ဆုံးရှုံးစေမည့် ကိစ္စရပ်များမှ ရှောင်ကြဉ်စေသည်။ ဤရှုထောင့်အရရိုဇာထားခြင်းသည် သက္ကဝါရှင်တို့၏အားထားရာ၊ သာသနာ့အတွက် ကြိုးပမ်းအား ထုတ်လိုသူများအတွက်ဒိုင်း၊ သူတော်စင်များအတွက် ဝိညာဉ်ဆိုင်ရာ လေ့ကျင့်ခန်းတစ်ရပ်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်တွင်လည်း ထိုအရာဘက်သို့ အရှင်မြတ်က အောက်ပါအတိုင်း ညွှန်းဆိုထားပေသည်။

(يَاأَيُّهَا الَّذِينَ آمَنُوا كُتِبَ عَلَيْكُمُ الصِّيَامُ كَمَا كُتِبَ عَلَى الَّذِينَ مِن قَبْلِكُمْ لَعَلَّكُمْ تَتَّقُونَ).

"အို-အီမာန်ရှင်အပေါင်းတို့၊ အသင်တို့အလျှင်ကပွင့်ပေါ်ခဲ့ကြသည့် အွမ္မသ်များအတွက်ရိုဇာကို ပြဋ္ဌာန်းပေးထားသကဲ့သို့ အသင်တို့အပေါ် ဝယ် ရိုဇာစောင့်ထိန်းခြင်းကိုဖရ်ဇ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းပေးလိုက်ပြီ။ အသင်တို့ သက္ကဝါရှင်များ ဖြစ်ကြပါစေသား။"

လူသားသည် မင်္ဂလာအပေါင်းခညောင်းသည့် လမြတ်ရမ်ဇန်တွင် အရှင်မြတ် အမိန့်တော်ကိုနာခံလျှက် စားပိုင်၊ သောက်ပိုင်သောအရာများအနီးသို့ပင် မသွားရာ အခြားလများတွင် အရှင်မြတ်က ဟရာမ် အဖြစ် သတ်မှတ်ထားသော အရာများအနီးကို အဘယ်သို့ ချဉ်းကပ်နိုင်မည်နည်း။ လမြတ်ရမ်ဇာန်၏ ရိုဇာများ စောင့်ထိန်းလိုက်ခြင်းဖြင့် မိမိကိုယ်ကို ထိန်းချုပ်ခြင်း၏ လေ့ကျင့်ခန်းလည်း ပြုလုပ်ပြီးဖြစ်သွားသည်။ ထိုလေ့ကျင့်ခန်းသည် ရိုဇာထားသူ၏ လက်တွေ့ဘဝတွင် ဒိုင်း

သဖွယ် မားမားမတ်မတ် ရပ်တည်ပေးနေမည်ဖြစ်ရာ ထိုဒိုင်းဖြင့် ရှိုင်သွာန်မိစ္ဆာကောင်၏ထိုးနှက်တိုက်ခိုက်မှုများ၊ စိတ်ရိုင်း၏ ပရိယာယ် အသွယ်သွယ်ကို ကာကွယ်နိုင်မည်ဖြစ်သည်။



## (၃၉) အရှင့်လမ်းတော်တွင် သုံးစွဲခြင်း၏ အရေးပါပုံ

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُوْلُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:

«قَالَ اللَّهُ تَعَالَى: أَنْفِقْ يَا ابْنَ آدَمَ أُنْفِقْ عَلَيْكَ».

(رواه البخاري في كتاب النفقات، باب فضل النفقة).

"အိုလူသား (အရှင့်လမ်းတွင်)သုံးစွဲပါ၊ ငါအရှင် အသင့်ပေါ် သုံးစွဲပေးတော်မူမည်။"

### ရှင်းလင်းချက်

ဤဟဒီးဆ်တော်တွင် မွတ်စ်လင်မ်များကို အရှင်မြတ် ချီးမြှင့်ထားသည့် ဥစ္စာထဲမှ အလ္လာဟ့်လမ်းတွင် သုံးစွဲကြရန် ရှင်းရှင်းလင်းလင်းနှိုးဆော်ထားပေသည်။ ဤသို့လှူဒါန်းလိုက်ခြင်းပေါ်အရှင်မြတ်ဘက်တော်မှ ပေးကမ်းချီးမြှင့်ခြင်း၏ မိုးများထပ်မံ ရွာသွန်းဖြိုးစေမည်ဖြစ်သည်။ ဟဒီးဆ်တော်တစ်ရပ်တွင်လာရှိသည်မှာ "အရှင်မြတ်သည် ကောင်းကင်တမန်တော်တစ်ပါးကို အောက်ပါအတိုင်း ဒိုအာပြုနေရန်ခန့်အပ်ထားတော်မူသည်။ "အိုအရှင်မြတ် - ပေးကမ်းသူများကို သာပိုကောင်းမွန်သည့်အစားများပေးသနားတော်မူပါ။ မပေးကမ်းသူများ၏ ဥစ္စာပစ္စည်း များကိုပျက်စီးစေတော်မူပါ။"

ကွယ်လွန်ပြီးနောက် ထာဝရသက်တမ်းတွင် ဆွဒကဟ်၏ အကျိုးဆက်များကို ဆထက်ထမ်းပိုးတိုးကာ မြင်တွေ့ရပေမည်။ ဟဒီးဆ်တော်တစ်ပုဒ်တွင် ဟရှရ်ကမ္ဘာ့လူသားထုတစ်ရပ်လုံး စုရုံးမည့်နေ့၌ ပေးကမ်းသူသည် မိမိပေးကမ်းခြင်း၏ အရိပ်အာဝါသအောက်တွင်ရှိနေမည်။

ပေးကမ်း စွန့်ကျဲခြင်း၏ အကျိုးကျေးဇူးများကို ဖော်ပြနေသည့် အခြား ဟဒီးဆ်တော် အမြောက်အမြားလည်း ရှိသေးသည်။

ကိုယ်တော်မြတ် (ﷺ) သည် မိမိလိုအပ်ချက်ထက် ပိုလျှံနေသော ဥစ္စာပစ္စည်းများကို အချိန်အနည်းငယ်မျှ ထိန်ချန်ထားခြင်းကို မနှစ်မြို့ပေ။ အလ္လာမဟ်အိဗ်နေ့ကိုင်ယစ်မ်သခင်က အောက်ပါအတိုင်း ရေးသားထားသည်။ "ကိုယ်တော်မြတ် (ﷺ)သည် မိမိ၏ ဥစ္စာပစ္စည်းများကို ဆဒကဟ်၊ ဒါနကြေးအဖြစ် ပေးလှူတော်မူလေ့ရှိသည်။

တစ်ဦးတစ်ယောက်က ကိုယ်တော့်ထံရှိနေသော အရာတစ်ခုကို လာရောက်တောင်းခံပါက လျော့နည်းသွားမည်ကို ဂရုမပြုဘဲ ပေးကမ်းလိုက်လေ့ရှိသည်။ ကိုယ်တော်သည် နည်းသွားခြင်း၊ ကြပ်တည်းခြင်း စသည်တို့ကို မစိုးရိမ်ဘဲပေးကမ်းလိုက်လေ့ရှိသည်။ ဆဒကဟ်ပေးခြင်း၊ လှူဒါန်းခြင်းတို့သည် ကိုယ်တော်မြတ် (ﷺ) ၏ အနှစ်သက်ဆုံး လုပ်ရပ်များဖြစ်သည်။ ကိုယ်တော်သခင်သည် ပေးကမ်းချိန် ယူသူထက်ပင် ပိုမို ပျော်ရွှင်ဝမ်းမြောက်တော်မူသည်။ ကိုယ်တော်သခင် (ﷺ) သည် ရက်ရောမှုတွင် ပြိုင်စံရှားဖြစ်သည်။ ကိုယ်တော်သခင်၏ ရွှေလက်တော်သည် ပေးကမ်းခြင်း၏ လေညှင်းတစ်စင်းဖြစ်သည်။ လိုအပ်ချက်ရှိသူက တောင်းဆိုလာလျှင် ကိုယ်တော်သည် မိမိလိုအပ်ချက်ထက် ထိုသူ့လိုအပ်ချက်ကို ဦးစားပေးလေ့ရှိသည်။ ကိုယ်တော်သခင် (ﷺ) ၏ ပေးကမ်းပုံသည်လည်း အမျိုးမျိုးရှိသည်။ တစ်ခါတရံလက်ဆောင်

အဖြစ်၊ တစ်ခါတရံ ဆွဒကဟ် အဖြစ်၊ တစ်ခါတရံအခြားခေါင်းစဉ်တစ်ခု ဖြင့်ပေးကမ်းချီးမြှင့်လေ့ရှိသည်။

တစ်ခါတရံ အခြားသူတစ်ဦးထံမှ ပစ္စည်းတစ်ခုခုဝယ်ယူပြီး ထိုသူ့ထံမှဝယ်ယူသည့်ပစ္စည်းနှင့် ယင်း၏တန်ဘိုးနှစ်ခုစလုံးကို ပြန်လည် ချီးမြှင့်ပေးလေ့ရှိသည်။ အချို့အခြေအနေများတွင် ပေါက်ဈေး၊ ဆိုဈေးထက်ပင် သာပိုပေးလေ့ရှိသည်။

အခြားသူများပေးကမ်းလာသည့် လက်ဆောင်များကိုလက်ခံလေ့ရှိပြီး လက်ဆောင်ပေးသူကို အဆမတန်ပြန်လည် ချီးမြှင့်လေ့လည်းရှိသည်။

အချုပ်ဆိုရသော် ကိုယ်တော်သခင်သည် နည်းမျိုးစုံဖြင့် ပေးကမ်းလှူဒါန်းခြင်း၊ ကောင်းမှုကောင်းရာပြုကျင့်ခြင်းတို့၏ ဆန်းကျယ်လှသော နည်းလမ်းများကို ဖန်တီးပြသတော်မူခဲ့သည်။”

လှူဒါန်းခြင်း၏ အခြားတစ်မျိုးမှာ ဇကားသ်ပေးခြင်းဖြစ်သည်။ ဇကားသ်သည်နိဆွားဗ်ရှင်၊ အသိညာဏ်ရှင်၊ အရွယ်ရောက်သည့်မွတ်စ်လင်မ်တိုင်းပေါ် ဖရ်ဇ်တာဝန်ဖြစ်သည်။ ဇကားသ်ပေးဆောင်ခြင်းသည် အစ္စလာမ်သာသနာတော်၏ အရေးကြီးလှသော မဏ္ဍိုင်များအနက် ဒုတိယအရေးပါလှသော မဏ္ဍိုင်တစ်ခုဖြစ်သည်။ ဝမ်းနည်းစရာကောင်းသည်မှာ ဤမျှအရေးပါလှသော ဖရ်ဇ်တာဝန်ကို မွတ်စ်လင်မ်အများစုသည် ဥပေက္ခာရင်ခွင်တွင် ထည့်ထားကြသည်။

လှူဒါန်းခြင်း၏ ဒုတိယအမျိုးအစားမှာ ဇကားသ်အပြင် အခြား ဆွဒကဟ်ဒါနကြေးဖြစ်သည်။ အခြားသူများ၏ လိုအပ်ချက်ကို ရှေ့တန်းတင် ဖြည့်ဆည်းပေးပြီး မိမိလိုအပ်ချက်များကို ဒုတိယနေရာ တွင်သာ ထားလိုက်ခြင်းဖြစ်သည်။ ဤလုပ်ရပ်သည် အရှင်မြတ်ကို အထူးနှစ်သက်စေသော လုပ်ရပ်ဖြစ်သည်။ ဤလုပ်ရပ်ကိုလည်း မွတ်စ်လင်မ်များ မေ့လျော့ထားသည်မှာ ဝမ်းနည်းဖွယ်ရာပင်။

အရှင်မြတ်ဆွဒကဟ်ပေးခြင်း၏အရေးပါမှုကို ကျွန်ုပ်တို့နှလုံးသား ထဲတွင်ထည့်သွင်းပေးသနားတော်မူပါစေ။ အထူးသဖြင့်ဇကားသ်တွင် ပေါ့ဆနေသူများကို ဇကားသ်ပေးကမ်းလာသူများအဖြစ် ပြုလုပ်ပေး သနားတော်မူပါ။ အာမီးန်



## (၄၀) ဟဂ်ျပြုခြင်း

عَنْ أَبِي هُرَيْرَةَ رَضِيَ اللهُ عَنْهُ عَنْ رَسُولُ اللهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ:
«اَلْحَجُّ الْمَبْرُورُ لَيْسَ لَهُ جَزَاءٌ إِلَّا الْجَنَّةُ».

(رواه البخاري في كتاب العمرة، ومسلم في كتاب الحج، باب فضل الحج والعمرة).

"အရှင်မြတ်လက်ခံသောဟဂ်ျပြုခြင်းအတွက် ဂျန္နသ်မှအပ အခြား အစားမရှိချေ။"

### ရှင်းလင်းချက်

အစ္စလာမ့်မဏ္ဍိုင်ကြီး (၄)ခုအနက် နောက်ဆုံး အရေးပါလှသော မဏ္ဍိုင်မှာ ဟဂ်ျပြုခြင်းဖြစ်သည်။ ဟဂ်ျနှင့်ဟဂ်ျ၏ကျင့်စဉ်များသည် အမိန့်နာခံခြင်းသက်သက်၊ စောဒကမဲ့ အရှင့်အမိန့်များကိုလိုက်နာခြင်း၊ တောင်းဆိုချက်တိုင်း၏ ရှေ့မောက်တွင် ဦးညွတ်ခြင်း၏ပြယုဂ်ဖြစ်သည်။ ဟာဂျီကိုတစ်ခါတရံ မက္ကာဟ်တွင်၊ တစ်ခါတရံမိနာတွင်၊ တစ်ခါတရံ အရဖားသ်တွင်၊ တစ်ခါတရံ မုဇ်ဒလေ့ဖဟ်တွင် နားခိုလျှက်၊ တစ်ခါတရံ ခရီးတွင်၊ တစ်ခါတရံ ရွက်ဖျဉ်တဲဆောက်လုပ်လျှက်၊ တစ်ခါတရံ ရွက်ဖျဉ်တဲ သိမ်းနေသည်ကို တွေ့မြင်ရသည်။ ဤအခြေအနေများအားလုံးသည် အရှင့်အမိန့်နာခံခြင်းတစ်ခုတည်းပေါ်တွင် အခြေခံနေသည်။ ဟာဂျီ၏ကိုယ်ပိုင်ဆုံးဖြတ်ချက်၊ ဆန္ဒ၊ ရွေးချယ်ပိုင်ခွင့်ဟူ၍မရှိပါ။

မိနာတွင်သက်ပြင်းပင်မချရသေး အရဖားသ်သွားရန်အမိန့်ရောက်လာသည်။ (မိနာမှ) အရဖားသ်သွားရာလမ်းတွင်ရှိသော မုဇ်ဒလေ့ဖဟ်

တွင်နားနေခွင့်မရှိဘဲ အရဖားသ်သို့ တိုက်ရိုက်သွားရသည်။ အရဖားသ်တွင်တနေ့တာလုံး ဒိုအာ၊ အေဗာဒသ်ပြုခြင်းတွင်မွေ့လျော်နေရသည်။ ညအရဖားသ်တွင်အနားယူရန်ဆန္ဒရှိသော်လည်း မိမိဖြတ်ကျော်ခဲ့သောမုဇ်ဒလေ့ဖာသို့ပြန်သွားရန် အမိန့်တော်လာရှိသည်။

တစ်သက်လုံးနမားဇ်ကို အချိန်နှင့်ဝတ်ပြုသူဖြစ်လင့်ကစား မဂ်ရိဗ်နမားဇ်ကိုယင်း၏အချိန်တွင် ဝတ်ပြုခွင့်မရှိ။ အဘယ့်ကြောင့်ဆိုသော် လူသားသည်အရှင့်အမိန့်၏ ကျွန်သာဖြစ်သည်။ မိမိလုပ်နေကျ အသားကျနေသည့်အကျင့်များ၏ကျွန်မဟုတ်ပါ။ ထိုလွှတ်ခဲ့သောမဂ်ရိဗ်နမားဇ်ကို မုဇ်ဒလေ့ဖဟ်ရောက်မှ အေရှာနမားဇ်နှင့်ပေါင်းဖတ်ရသည်။ မုဇ်ဒလေ့ဖဟ်တွင် စိတ်ရှိလက်ရှိနားပစ်ချင်သော်လည်း မိနာဘက်သို့ထွက်ခွာရန် အမိန့်တော်လာရှိသည်။

ဤကဲ့သို့သော အမိန့်နာခံစိတ်၊မိမိကိုယ်မိမိ ချိုးနှိမ်စိတ်များကို အရှင်မြတ် အလွန်ပင်နှစ်သက်တော်မူသည်။

ဟာဂျီတစ်ဦးသည် စိတ်စေတနာဖြူစင်စွာ၊ ဟဂ်ျ၏စည်းကမ်းများကိုလိုက်နာပြီးဟဂ်ျပြုလိုက်ပါက ထိုသူသည်ရဟ်မသ်စမ်းချောင်းထဲတွင် ရေချိုးလိုက်သည့်ပမာဖြစ်သွားမည်။ ထိုသို့ရေချိုးလိုက်ခြင်းကြောင့် သက်တမ်းတွင်ကျူးလွန်မိခဲ့သမျှဂိုနဟ်များ ကျွတ်သွားမည်။ လောကတွင်လည်း စိတ်ချမ်းသာ ကိုယ်ကျန်းမာခြင်း၏စည်းစိမ်ကို ခံစားရမည်။ ထိုကဲ့သို့အမိန့်နာခံခြင်းများ၏အစားအဖြစ် ဂျန္နသ်ကို ပိုင်ဆိုင်ခွင့်ပေးခြင်းမှာ အရှင့်မြတ်၏ ပြောင်းလဲခြင်းမဲ့သည့် ဆုံးဖြတ်

ချက်သာဖြစ်သည်။ အရှင်မြတ် ကျွန်ုပ်တို့အားလုံးကိုခြောက်ပြစ်ကင်း သဲလဲစင်ပေးမည့်ဟက်ဂျ်မျိုး ကျင့်ဆောင်ခွင့်ချီးမြှင့်ပေးသနား တော်မူပါစေ။ အာမီးန်



الحمد لله الذي بعزته وجلاله تتم الصالحات، وصلى الله تعالى على حبيبه سيدنا ومولانا محمد وآله وصحبه أجمعين صلاة وسلاما دائمين متلازمين إلى يوم الدين.



🔰 စာအုပ်အမည် - حدیث کی روشنی (ပြန့်ပွားစေမည် ဟဒီးဆ်ရောင်ခြည်)

❁ ပြုစုရသည့်ရည်ရွယ်ချက် ...

- မတ်စ်လင်မ်ညီနောင်များ ဟဒီးဆ်တော် (၄၀)ကျက်မှတ်ပြီး ဂျန္နသ်ဝင်ရောက်ရေး။
- (ရှဖာအသ် ) ချစ်နဗီ ﷺ ၏ ကြားဝင်အသနားခံပေးမှု ရရှိရေး။
- ရင်သွေးငယ်များ ဟဒီးဆ်တော်များနှင့် ရင်းနှီးကျွမ်းဝင်ပြီး အရဗီစာပေကိုလည်း ချစ်မြတ်နိုးရေး။

❁ ထူးခြားချက်

- ဘဝကဏ္ဍအစုံမှ ဟဒီးဆ်တော် (၄၀) ကို တိကျခိုင်လုံသော ကျမ်းများမှ ကောက်နှုတ်တင်ပြထားခြင်း။
- တိုတောင်းသော ဟဒီးဆ်တော်များကို ဖော်ပြထားသည်ဖြစ်ရာ ကျက်မှတ်ရလွယ်ကူ ခြင်း။
- ဟဒီးဆ်တော်နှင့်သက်ဆိုင်သည့် သိမှတ်ဖွယ်ရာများကို လိုရင်းတိုရှင်း ထည့်သွင်းဖော်ပြ ထားခြင်း။

❁ ဘယ်လို အကျိုးခံစားမလဲ

- တစ်ပတ်တွင် တစ်ပုဒ်ခန့် ကျက်မှတ်သင့်သည်။
  မိမိနှင့်အတူ မိသားစုဝင်များကိုပါ ဤကောင်းမှုတွင် ပါဝင်စေသင့်သည်။
- ဗလီရှေ့ဆောင်ဆရာများအနေဖြင့် (၁)လလျှင် (၅)ပုဒ်ခန့်ကို နေ့စဉ် နမားဇ်တစ်ကြိမ်ကြိမ် နောက်တွင် ဦးဆောင်ကျက်မှတ်စေသင့်ပါသည်။
- ဤဟဒီးဆ်တော် (၄၀) ကျက်မှတ်တိုင်း စိတ်ထဲတွင် ကိုယ်တော်မြတ် ﷺ ၏ ကြားဝင် အသနားခံပေးမှုနှင့် ကိုယ်တော်မြတ် ﷺ ၏ချစ်စိတ်များကို မျှော်လင့် တောင်းခံနေသင့်သည်။

❁ ဘယ်သူတွေ ပိုမိုအကျိုးခံစားသင့်လဲ

- မတ်စ်လင်မ်တိုင်း အကျိုးခံစားသင့်သည်။
- သို့သော် မက္ကသဗ်အရွယ်ကလေးငယ်များအတွက် သီးသန့်အစီအစဉ်တစ်ရပ်အနေဖြင့်ကျက်မှတ်စေသင့်ပါသည်။
- ကျမ်းမြတ်ကုရ်အာန် အာဂုံဆောင်နေသော ကျောင်းသားများ၊ အာလင်မ် အခြေခံတန်း များတွင် တက်ရောက်နေသော ကလေးငယ်များလည်း အထူးအကျိုးခံစားသင့်သောကြောင့် ကျောင်းတာဝန်ခံများ၊ အုပ်ထိန်းသူများအတွက် သတင်းကောင်းတစ်ရပ်ဟု မှတ်ချက်ပြုချင်ပါသည်။